# လိုရင်းတိုရှင်း စီးပွားရေးပညာ

(သင်သိသင့်သမျှ စီးပွားရေးအကြောင်းအရာများ)



ဒေါ်ဝင်းကြူ (မင်းမနား)

မြန်မာပြန်သည်

# လိုရင်း တိုရှင်း

# စီးပွားရေးပညာ

(သင်သိသင့်သမျှစီးပွားရေးအကြောင်းအရာများ)

ဇော်ဝင်းကြူ (ပျဉ်းမနား)

မြန်မာပြန်သည်

TWEETONOMICS

NIC COMPTON , ADAM FISHWICK & KATIE HUSTON

# မာတိကာ

# ဘာသာပြန်သူအမှာ

ယခုအခါ ယခင် မည်သည့်အချိန်တုန်းကနှင့်မျှ မတူအောင် စီးပွားရေးအကြောင်းကို စိတ်ဝင်စားသူများ ပိုမိုများပြားလာသည်ဟု ဆိုလျှင် မှားမည်မဟုတ်ပါ။ လူအများ၏ နားနှင့်မျက်စိများ ပို၍ပွင့်လာကြသဖြင့် စီးပွားရေးနှင့်ပတ်သက်သောစာအုပ်များကို ဖတ်ရှုသူများ ပိုမိုများပြားလာပါသည်။ စီးပွားရေးအကြောင်း ဟောပြောသော ဟောပြောပွဲများကို တက်ရောက်နားထောင်သူများ ပိုမိုများပြားလာပါသည်။ အခြေအနေ အခါအခွင့်သင့်သည့်အခါတိုင်း အခွင့်သင့်သူများနှင့် စီးပွားရေးအကြောင်းကို အပြန်အလှန်ဆွေးနွေးကြသူများ ပိုမိုများပြားလာပါသည်။ ထိုသူများအထဲတွင် မိမိကိုယ်တိုင်က စီးပွားရေးလုပ်ငန်းတစ်ခုခုတွင် ထဲထဲဝင်ဝင်ပါဝင်ပတ်သက်နေသူများ ပါဝင်ကြသကဲ့သို့ မိမိကိုယ်တိုင်က ထိုသို့ပါဝင်ပတ်သက်နေခြင်းမရှိသော်လည်း မိမိနိုင်ငံ၊ မိမိဒေသ၊ မိမိပတ်ဝန်းကျင်တွင် ဖြစ်ပေါ်နေသောစီးပွားရေးအကြောင်းကို ခေတ်နှင့်အညီ သိရှိနားလည်ထားလိုသူများလည်း ပါဝင်ပါသည်။

အခြားပညာရပ်များနည်းတူပင် စီးပွားရေးပညာသည် ကျယ်ဝန်းပါသည်။ စီးပွားရေးတွင် လူတို့က ဖန်တီးလိုက်သော၊ ပြဋ္ဌာန်းလိုက်သောအရာများစွာပါဝင်နေသကဲ့သို့ ထိုသို့လူတို့ဖန်တီးပြဋ္ဌာန်းလိုက်သောအရာများအပေါ်တွင်မူတည်၍ သူ့သဘောသူဆောင်ပြီး ဖြစ်ပေါ်လာသော ဖြစ်ပေါ်တိုးတက်မှုများ၊ လူတို့က လိုက်၍မမီနိုင်သောအရာများလည်း များစွာရှိပါသည်။ ပုဂ္ဂိုလ်တစ်ဦးချင်းလုပ်ကိုင်သော စီးပွားရေး၊ အဖွဲ့အစည်းများကလုပ်ကိုင်သောစီးပွားရေး၊ နိုင်ငံအတွင်း ဖြစ်ပေါ်တိုးတက်နေသောစီးပွားရေး၊ ဒေသအတွင်း ဖြစ်ပေါ်တိုးတက်နေသော စီးပွားရေး၊ ကမ္ဘာတစ်ဝှမ်းလုံးတွင် ဖြစ်ပေါ်တိုးတက်နေသော စီးပွားရေးစသည်ဖြင့် သိရှိနားလည်ထားသင့်သောအရာများ များစွာရှိပါသည်။

မည်သို့ပင်ဖြစ်စေ စီးပွားရေးပညာရှင်မဟုတ်သောသူများ အနေဖြင့် စီးပွားရေးအကြောင်းကို လေ့လာမည်ဆိုပါက စီးပွားရေးနှင့် ပတ်သက်သော ခေါ်ဝေါ်သတ်မှတ်ချက်များ၊ ပြဋ္ဌာန်းချက်များ၊ အသုံးအနှုန်းများ၊ စီးပွားရေးနှင့်ပတ်သက်သော ဖြစ်ပေါ်တိုးတက်မှုများကို အတိုင်းအတာတစ်ခုအထိ သိရှိထားရန်မှု မဖြစ်မနေလိုအပ်မည်ဖြစ်ပါသည်။ ဤစာအုပ်တွင် စီးပွားရေးအဆောက်အအုံကြီး၏လည်ပတ်နေပုံ၊ စီးပွားရေးနှင့်ပတ်သက်၍ အစိုးရများ၏လုပ်ဆောင်ပုံ၊ စီးပွားရေးဆိုင်ရာဝေါဟာရများ၊ စီးပွားရေးပညာရှင်ကြီးများနှင့် ၎င်းတို့၏ တွေးခေါ်ယူဆချက်များ၊ ကမ္ဘာတွင် ငွေကြေးကိုပုံစံအမျိုးမျိုးဖြင့် တီထွင်သတ်မှတ်ရောင်းဝယ်နေကြပုံများ၊ စီးပွားရေးကောင်းခြင်းနှင့် စီးပွားရေးကျဆင်းခြင်းများ၊ စီးပွားရေးအရ တစ်ကမ္ဘာလုံးနီးကပ်ဆက်နွယ်သွားပုံ၊ ယခုအခါခေတ်စားလာသော ပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးစီးပွားရေးစသည့် အကြောင်းများကို စီးပွားရေးပညာရှင်၊ ပညာသင်များမဟုတ်သည့် သာမန်စာဖတ်ပရိသတ် နားလည်လွယ်သည့်စကားလုံးများဖြင့် လိုရင်းတိုရှင်းဖော်ပြထားသည်ကို တွေ့ရမည်ဖြစ်ပါသည်။

ထိုသို့ဖော်ပြရာတွင် အကြောင်းအရာများကို သင့်တော်သလို အပိုင်းများခွဲပြီး မဖြစ်မနေသိသင့်သည့် အကြောင်းအရာများကို ရွေးချယ်၍ စာဖတ်သူငြီးငွေ့သွားသည်အထိ ရှည်လွန်းခြင်း၊ လိုအပ်သည့် အချက်အလက်များ ပြည့်စုံခြင်းမရှိသည်အထိ တိုလွန်းခြင်း ဟူသော အစွန်းနှစ်ခုကိုမရောက်စေဘဲ ကျစ်လျစ်စွာ စီစဉ်စုစည်းထားသောကြောင့် အဖိုးတန်သောအချိန်ကိုပေး၍ဖတ်သော စာဖတ်သူကို ဖတ်ရကျိုးနပ်စေမည် ဖြစ်ပါသည်။ အထူးသဖြင့် မိမိ၏ပတ်ဝန်းကျင်တွင် မကြာခဏကြားနေရသော GDP ၊ Inflation ၊ Free Market ၊ Exchange Rate စသည့် အသုံးအနှုန်းများ ၊ ကမ္ဘာ့စီးပွားရေးကို ကိုင်လှုပ်နေသော စတော့ရှယ်ယာဒိုင်ကြီးများ၊ IMF ၊ World Bank ၊ OECD ၊ WTO စသည့်စီးပွားရေးနှင့်သက်ဆိုင်သော အဖွဲ့အစည်းများ၏အကြောင်းများကို ယခင်ကထက်ပို၍နားလည်သိရှိသွားမည်ဖြစ်၍ ကမ္ဘာ့စီးပွားရေး

အဆောက်အအုံကြီးအပေါ်တွင် ထူးခြားသောအမြင်သစ်များရရှိလာမည်မှာမလွဲပါ။

ဤစာအုပ်တွင် အထက်တွင်ဖော်ပြခဲ့သည့် အကြောင်းအရာများအပြင် စီးပွားရေးလောကတွင် အရေးပါသော်လည်း အကြောင်းမတိုက်ဆိုင်၍ လေ့လာသူများအနေဖြင့်မကြားဖူး၊ မတွေ့ဖူးသေးဘဲဖြစ်နေသည့် အခြားစိတ်ဝင်စားစရာ အကြောင်းအရာအချို့ကိုလည်း ဖတ်ရှုရမည်ဖြစ်သဖြင့် ဤစာအုပ်ကိုဖတ်ပြီးပါက စီးပွားရေးကိစ္စရပ်များနှင့် ပတ်သက်၍ အတိုင်းအတာတစ်ခုအထိ ယခင်ထက်ပို၍နှံ့စပ်စွာ သိရှိနားလည်သွားမည်မှာ သေချာပါသည်။ ဤစာအုပ်ကိုဖတ်ရုံမျှနှင့် အရာအားလုံး ပြည့်စုံသွားမည်မဟုတ်သော်လည်း စီးပွားရေးနှင့်ပတ်သက်သော အကြောင်းအရာများထဲမှ အလိုအပ်ဆုံးဟု ယူဆသောအရာများကိုရွေးချယ်၍ အတိုဆုံးအရှင်းဆုံးနည်းလမ်းဖြင့် ကြိုးစားတင်ပြထားသည့်စာအုပ်ဖြစ်သောကြောင့် စီးပွားရေးကို စိတ်ဝင်စားသောမည်သူမဆို ဖတ်ရကျိုးနပ်မည့်စာအုပ်တစ်အုပ် ဖြစ်ပါသည်ဟုမူရည်ညွှန်းလိုပါသည်။

ဇော်ဝင်းကြူ (ပျဉ်းမနား)

# နိဒါန်း

လေယာဉ်ပျက်ကျမှုများသည် ကြီးမားသော သတင်းခေါင်းစဉ်ကြီးများဖြစ်သကဲ့သို့ ရထားချင်းတိုက်မှုများသည်လည်း အလားတူပင်ဖြစ်သည်။ ထိုနည်းတူစွာပင် ငွေကြေးပြိုလဲမှုသည်လည်း ကြီးမားသောသတင်းခေါင်းစဉ်တစ်ခု ဖြစ်လာခဲ့ပါသည်။ ၂၀၀၇ ခုနှစ်၏ အပေါင်စာချုပ်ချေးငွေအကျပ်အတည်းနှင့် နောက်ဆက်တွဲပါလာသော ပြိုလဲလုနီးပါးဖြစ်ခဲ့သည့်ဘဏ်လုပ်ငန်းတို့သည် မီဒီယာလောကကို ဖုံးလွှမ်းသွားခဲ့ပါသည်။ ငွေကြေးစနစ်၏ လျှို့ဝှက်ဆန်းကြယ်သော လုပ်ဆောင်ပုံကိုဖော်ပြသည့် သတင်းစာစက္ကူအကျယ်အဝန်းကို ဧကပေါင်းများစွာအထိရောက်သွားအောင် ယခင်မည်သည့်အချိန်ကမျှ ယခုကဲ့သို့နေရာမပေးခဲ့ဖူးပါ။ တဇောက်ကန်းဆန်သော ဘဏ်လုပ်ငန်းရှင်များ၏အပြုအမူကိုရုပ်သံရိုက်ကူး၍ စေ့စပ်စွာကြည့်ရှုစစ်ဆေးရန်အတွက် ယခုလောက်များပြားသော ရိုက်ကူးချိန်နာရီများကိုလည်း ယခင်ကမသုံးစွဲခဲ့ဖူးပါ။

သို့ရာတွင် မကြာမီ သိသာထင်ရှားလာခဲ့သည့်အချက်မှာ 'ပိုင်ဆိုင်ပစ္စည်း ကျောထောက်နောက်ခံပြုအာမခံချက်' သည် မည်သည့်အရာ ဖြစ်သည်၊ သို့မဟုတ် ၎င်းသည် မည်သည့်အတွက်ကြောင့် အကျပ်အတည်းကြီးအတွက်အဲရေးပါသည်၊ သို့မဟုတ် ချေးငွေဆပ်ရန် ပျက်ကွက်မှုဖလှယ်ခြင်းစာချုပ် (CDS) များသည် ကုမ္ပဏီတစ်ခုနှင့် ငွေကြေးစနစ်ကြီးတစ်ခုလုံးနီးပါးကို မည်သို့ပြိုလဲစေနိုင်သည်၊ သို့မဟုတ် 'ချေးငွေဖြင့် မတည်ရင်းနှီးခြင်း' သည် မည်သည့်အရာကိုဆိုလို၍ ၎င်းသည်သတိရှိသောသူများကိုပင် ထိန်း၍မရအောင်စွဲလမ်းသည့် လောင်းကစားသမားအဖြစ်သို့ ရောက်သွားအောင် မည်သို့ ပြောင်းလဲပေးနိုင်သည်ကိုလူတိုင်းက အချိန်ကုန်ခံ၍ အတိအကျရှင်းပြတော့မည် မဟုတ်ခြင်းပင်ဖြစ်ပါသည်။

တစ်ခါတစ်ရံ ရှုပ်ထွေးသည့် ဤယူဆချက်များကို ကျွမ်းကျင်သူမဟုတ်သူများ အလွယ်တကူ နားလည်ကျေညက်သွားမည့် လိုရင်းတိုရှင်း

ပုံစံတစ်ခုဖြင့် ဤစာအုပ်က ရှင်းပြမည်ဖြစ်ပါသည်။ ယင်းသို့ နားလည်ကျေညက်ရန်အတွက် ယခုအခါ နေရာတိုင်းတွင်တွေ့နေရသော တစ်ခါကြည့် အနေတော်အရွယ်အစားရှိသည့် "စာတိုကလေး" များသည် အလွယ်ကူဆုံး ဖြစ်ပါလိမ့်မည်။

စီးပွားရေးပညာအကြောင်းကို လိုရင်းတိုရှင်းရေးသားရန် ကြိုးစားခြင်းသည် မိုက်မဲသည့်စိတ်ကူးတစ်ခု ဖြစ်ကောင်းဖြစ်နေနိုင်ပါသည်။ နောက်ဆုံးတွင် စာအုပ်များအားလုံးသည် ငွေကြေးထိန်းချုပ်ရေးစနစ်ကဲ့သို့သော အကြောင်းအရာများထဲတွင် နှစ်မြုပ်ထားကြသည့်အတွက် စာတိုကလေးအနည်းငယ်ဖြင့် မည်သည့်အရာကို အောင်မြင်မှုရရှိမည်ဟု ကျွန်ုပ်တို့ မည်သို့မျှော်လင့်နိုင်ပါမည်နည်း။ သို့ရာတွင် အကြောင်းအရာများကိုလျှော့ချ၍ စကားလုံးများကို အနည်းဆုံးဖြစ်သွားအောင် ဖြတ်တောက်လိုက်ခြင်းသည် အတိုင်းအတာတစ်ခုအထိ အံ့သြလောက်အောင် ရှင်းလင်းသွားမည်ကိုမူ သံသယဖြစ်ဖွယ်ရာမရှိပါ။ သိမ်မွေ့သော ကွဲပြားခြားနားချက်အချို့ကိုမူ ဆုံးရှုံးသွားနိုင်သည်မှာ မှန်ပါသည်။ သို့ဖြစ်စေကာမူ ၎င်းသာအလုပ်ဖြစ်မည်ဆိုပါက ရရှိမည့်ဆုလာဘ်မှာ အတန်ပင်ရှုပ်ထွေးသည့် ယူဆချက်အချို့ကို ချက်ချင်းနားလည်သွားမည့် ဆုလာဘ်ပင်ဖြစ်ပါသည်။ ထိုဆုလာဘ်သည် ကြိုးစားရကျိုးနပ်မည့်အရာဖြစ်မည်မှာ သေချာပါသည်။

ဤစာအုပ်တွင် ကျွန်ုပ်တို့စတင်မည့်နေရာမှာ သတင်းများတွင် များသောအားဖြင့် လုံလောက်သော ရှင်းလင်းချက်မပါရှိဘဲ နေ့စဉ်အသုံးပြုနေသော 'လွတ်လပ်သောဈေးကွက်'၊ 'ရောင်းလိုအားနှင့် ဝယ်လိုအား'၊ 'ဘဏ္ဍာရေးနှင့်ငွေကြေးမူဝါဒ' အစရှိသည့် ဝေါဟာရများ ဖြစ်ပါသည်။ ထိုမှဆက်၍ 'ကိန်းစ်၏ စီးပွားရေးမူဝါဒ'၊ 'လွတ်လပ်သော စီးပွားရေးမူဝါဒလက်သစ်' နှင့် 'မာ့က်စ်ဝါဒ' စသည့် ကျွန်ုပ်တို့၏ စီးပွားရေးများကို ပုံဖော်ပေးနေသည့် ကြီးမားသော ယူဆချက်အချို့ကို ရောက်အောင် ချဲ့ထွင်သွားမည်ဖြစ်ပြီး ၎င်းတို့နှင့်ပါဝင်ပတ်သက်နေသည့် Keynes ၊ Friedman ၊ Hayek စသည့် ပုဂ္ဂိုလ်ကျော်ကြီးအချို့ကို တွေ့ဆုံရမည်

ဖြစ်ပါသည်။ စတော့ဈေးကွက်များ၏ လုပ်ကိုင်ဆောင်ရွက်ပုံများအပေါ် ခြုံငုံသုံးသပ်ချက်များက စီးပွားရေးရုတ်တရက်ကောင်းပြီး ပြန်ကျသွားမှုဆီသို့၊ ထိုမှတစ်ဖန် ၂၀၀၇-၂၀၀၉ စီးပွားရေးအကျပ် အတည်းဆီသို့ ကျွန်ုပ်တို့ကို တန်းတန်းမတ်မတ်ခေါ်ဆောင်သွားမည် ဖြစ်ပါသည်။ ထို့နောက် ကမ္ဘာ့ဇာတ်ခုံပေါ်တွင် စီးပွားရေးမူဝါဒများက မည်သို့ သက်ရောက်မှုရှိခဲ့ပုံကို ကျွန်ုပ်တို့ကကြည့်၍ ထိုမှတစ်ဖန် သဘာဝ ပတ်ဝန်းကျင်ကို စောင့်ရှောက်သည့်စီးပွားရေးပညာက ငွေကြေးဆိုင်ရာ မအီမသာဖြစ်မှုအတွက် ရေရှည်ဖြေရှင်းချက်များပေးနိုင်မည် ဟုတ် မဟုတ်ကိုကြည့်ရန်အတွက် ထိုစီးပွားရေးပညာဘက်သို့ ကျွန်ုပ်တို့၏ အာရုံစိုက်မှုကို လှည့်ပြောင်းထားပါသည်။

ဤစာအုပ်ကို စီးပွားရေးပညာနှင့်ပတ်သက်၍ ကျယ်ပြန့်ပြည့်စုံသည့် ပြဋ္ဌာန်းစာအုပ်တစ်အုပ်ဖြစ်သည့်အလား ဟန်ဆောင်ထားခြင်းမရှိပါ။ သို့ရာတွင် သတင်းနားထောင်သော၊ သတင်းစာဖတ်သော၊ အထူးသဖြင့် ငွေကြေးဝရုန်းသုန်းကားဖြစ်နေသောအချိန်တွင် ထိုသို့ နားထောင်သော၊ ဖတ်သောလူတိုင်းအတွက် ဤစာအုပ်သည် အသုံးဝင်သော အဖော်မွန်တစ်ယောက် ဖြစ်ပါလိမ့်မည်။ ထို့အပြင် လိုရင်းတိုရှင်း ဤစာတိုများကိုဖတ်ခြင်းက စီးပွားရေးပညာ၏ လက္ခဏာသွင်ပြင်ကို ဤနေရာတွင် ကျွန်ုပ်တို့ နေရာပေး၍ ရေးသားထားသည်ထက် ပို၍ သိချင်စိတ်ဖြစ်ပေါ်လာအောင် သင့်ကိုဆွဲဆောင်သွားမည်ဆိုပါက ဤစာအုပ်ကိုရေးသားခဲ့သော ကျွန်ုပ်တို့၏တာဝန်ကျေပွန်ပြီ ဖြစ်ပါသည်။

# (၁)
# စီးပွားရေး၏ လုပ်ဆောင်လည်ပတ်ပုံ

သားသတ်သမား၊ ဘီယာချက်သူနှင့် ပေါင်မုန့်ဖုတ်သမားများကို ၎င်းတို့၏ ဆိုင်များကိုဖွင့်ပြီး ၎င်းတို့၏ ပစ္စည်းများကို ရောင်းရန်အတွက် မနက်ခင်းတွင် အိပ်ရာမှထစေရန် မည်သည့်အရာက လုပ်ဆောင်ပေးနေသနည်း။ ၎င်းတို့အနေဖြင့် ဒေါ်လာသန်းချီ၍တန်သည့် စီးပွားရေးလုပ်ငန်းကြီးတစ်ခုဖြစ်လာစေရန် တိုးချဲ့မည်လား၊ သို့တည်းမဟုတ် ဆိုင်ကို အသာပိတ်၍ အိမ်ကိုပြန်မည်လားဆိုသည်ကို အဆုံးအဖြတ်ပေးနေသည့် အဓိကအကြောင်းတရားများမှာ အဘယ်နည်း။ ၎င်းအကြောင်းတရားများသည် စီးပွားရေးပညာ၏ အဓိကကျသည့် အခြေခံသဘောတရားများပင် ဖြစ်သည်။

**'လွတ်လပ်သောဈေးကွက်' ဆိုတာဘာလဲ**

အမှန်တကယ်လွတ်လပ်သောဈေးကွက် (Free Market) ဆိုသည်မှာ ကုန်ပစ္စည်းထုတ်လုပ်မှုကို ရောင်းလိုအားနှင့် ဝယ်လိုအားကသာလျှင် လုံးဝထိန်းချုပ်ထားသော ဈေးကွက်တစ်ခု ဖြစ်သည်။ စည်းမျဉ်းများ မရှိပါ။ ကူညီထောက်ပံ့ငွေ မရှိပါ။ အခွန်အခများ မရှိပါ။

အတင်းအကျပ်ခိုင်းစေမှု၊ လိမ်လည်မှုနှင့် ပိုင်ဆိုင်ပစ္စည်းဆိုင်ရာ အခွင့်အရေးအလွဲသုံးစားမှုများကို ကာကွယ်တားဆီးရန်သာလျှင် အစိုးရ

က ဝင်ရောက်စွက်ဖက်ရမည်။ ယင်းသို့ ဆောင်ရွက်ပေးမှုအတွက် အခွန်အတုတ်ကို အနည်းဆုံးဖြစ်အောင် စည်းကြပ်ရမည်။ ဤဈေးကွက်သည် ညီမျှမှုရှိသော ပြိုင်ကွင်းထဲတွင် ဟန့်တားနှောက်ယှက်မှု၊ သို့မဟုတ် ကူညီပံ့ပိုးမှုမပါဘဲ လူတိုင်းကို ပြိုင်ဆိုင်ခွင့်ပေးထားသည်။ သို့ဖြစ်၍ အတော်ဆုံးအမျိုးသား၊ အမျိုးသမီးက အနိုင်ရနိုင်သည်။

ဈေးနှုန်းနှင့် ကုန်ပစ္စည်းရရှိနိုင်မှုကို ရောင်းလိုအားနှင့် ဝယ်လိုအားက ထိန်းညှိပေးပြီး ထိုထိန်းညှိပေးမှုသည် မည်သည့်စီမံကိန်းထက်မဆို၊ အထူးသဖြင့် မည်သည့်အစိုးရစီမံကိန်းထက်မဆို များစွာပို၍ ထိရောက်မှုရှိသည်။

ရောင်းလိုအား၊ ဝယ်လိုအားနှင့် ဈေးနှုန်းတို့၏ အံ့ဖွယ်ကောင်းသောစွမ်းဆောင်မှုကို Adam Smith က 'ဈေးကွက်၏မမြင်ရသောလက်' ဟုခေါ်ပါသည်။

ပေါင်မုန့်ဖုတ်သမားနှင့် သားသတ်သမားသည် ပေါင်မုန့်နှင့် အသားကို သနားကြင်နာ၍ရောင်းခြင်းမဟုတ်။ ပရိယေသနဝမ်းစာရှာရန်ရောင်းခြင်းသာ ဖြစ်သည်။ သို့ရာတွင် ထိုဆောင်ရွက်ချက်ကြောင့် လူ့အဖွဲ့အစည်းထဲရှိ လူအားလုံးက အကျိုးခံစားရသည်ဟု Adam Smith ကထောက်ပြပါသည်။

### 'ရောင်းလိုအားနှင့် ဝယ်လိုအား' ဆိုတာဘာလဲ

ရောင်းလိုအားနှင့် ဝယ်လိုအား (Supply and Demand) သည် လွတ်လပ်သည့် ဈေးကွက်စီးပွားရေးကို မောင်းနှင်နေသောအရာဖြစ်ပါသည်။ ၎င်းနှစ်ခု မည်သို့လုပ်ဆောင်နေသည်ကို နားလည်အောင်လုပ်ပါ။ ၎င်းကိုနားလည်လျှင် စီးပွားရေးပညာရှင်တစ်ယောက်ဖြစ်မည့်လမ်းကြောင်းပေါ်သို့ သင်ရောက်သွားပါလိမ့်မည်။

ကုန်ပစ္စည်းများ၏ ဈေးနှုန်းပို၍မြင့်မားလေ၊ ဝယ်လိုအားပို၍နည်းလေဖြစ်သည်ဟု ဈေးကွက်၏ဥပဒေသက ဆိုပါသည်။ ထိုသို့ဖြစ်ခြင်းမှာ ၎င်းတို့ပေးရန်လိုအပ်မည့်ငွေထက်ပို၍ မည်သူကမျှမပေးချင်

သောကြောင့် ဖြစ်ပါသည်။

ကုန်ပစ္စည်းများ၏ ဈေးနှုန်းပို၍မြင့်မားလေ၊ ရောင်းလိုအားပို၍ ကြီးမားလေဟုလည်း အလားတူဥပဒေသကပင် ဖွင့်ဆိုထားပါသည်။ ထိုသို့ဖြစ်ခြင်းမှာ အကျိုးအမြတ်ရရှိရန် အခွင့်အလမ်း ပို၍ကောင်း သောကြောင့် ဖြစ်ပါသည်။

ရောင်းလိုအားနှင့် ဝယ်လိုအား ကိုက်ညီနေသည့်နေရာကို ဟန်ချက်ညီသောအခြေအနေ (Equilibrium) ဟု ခေါ်ပါသည်။ မည်သည့်အရာမျှ အလဟဿမဖြစ်ဘဲ လူတိုင်းက ၎င်းတို့လိုချင်သည့်အရာကိုရသည့်အတွက် ဤအခြေအနေသည် အကောင်းဆုံး ဖြစ်ပါသည်။

သို့ရာတွင် ဟန်ချက်ညီသောအခြေအနေကိုရောက်ရှိခြင်းမှာ ရှားပါးသောဖြစ်ရပ် ဖြစ်ပါသည်။ ဈေးနှုန်းများသည် ရောင်းလိုအားနှင့် ဝယ်လိုအားထဲရှိ အပြောင်းအလဲများကို စဉ်ဆက်မပြတ် တုံ့ပြန်နေပါသည်။ ကွန်ပျူတာများ၏ဈေးနှုန်းကိုသာ ကြည့်လိုက်ပါ။

အချို့ကုန်ပစ္စည်းများသည် "အလျှော့အတင်းရှိသည်" (Elastic ဖြစ်သည်) ဟုပြောကြပါသည်။ လူတို့သည် ၎င်းပစ္စည်းများကို အမှန်တကယ်လိုအပ်ခြင်းမရှိကြသည့်အတွက် အနည်းငယ်မျှသော ဈေးနှုန်းပြောင်းလဲမှုကလေးက အရောင်းများကို အကြီးအကျယ် လျော့နည်းသွားစေလိမ့်မည်ဟူသောအဓိပ္ပာယ် ဖြစ်ပါသည်။

'အလျှော့အတင်းမရှိသော' (Nonelastic) ကုန်ပစ္စည်းများဆိုသည်မှာ မရှိမဖြစ်လိုအပ်သည်၊ သို့မဟုတ် အစားထိုး၍မရနိုင်ဟု ကျွန်ုပ်တို့ကယူဆပြီး ဈေးနှုန်းကိုထည့်မစဉ်းစားဘဲဝယ်မည့် (ဥပမာ - ရေနံကဲ့သို့) အရာများဖြစ်ပါသည်။

**'စားသုံးမှု' ဆိုတာဘာလဲ**

စားသုံးမှု (Consumption) ဆိုသည်မှာ လူအများကဝယ်ယူသည့် ကုန်ပစ္စည်းနှင့် ဝန်ဆောင်မှုများ၏ပမာဏ ဖြစ်ပါသည်။ စားသုံးမှုသည် များသောအားဖြင့် နိုင်ငံတစ်နိုင်ငံ၏ GDP (ပြည်တွင်းအသားတင်ထုတ်

လုပ်မှု) တွင်ပါဝင်သည့် အကြီးမားဆုံးအစိတ်အပိုင်း ဖြစ်ပါသည်။ အစဉ်အလာအရ စီးပွားရေးပညာရှင်တို့သည် ကုန်ပစ္စည်းထုတ်လုပ်မှု အပေါ်၌သာ အာရုံစိုက်၍ စားသုံးမှုကို မသိကျိုးကျွန်ပြုလေ့ရှိပါသည်။ ၎င်းအရာအားလုံးကို John Maynard Keynes က ပြောင်းလဲပစ်ခဲ့ပါသည်။

စားသုံးမှု၏ အဓိကနယ်ပယ်များမှာ (အိမ်၊ မော်တော်ယာဉ်စသည့်) တာရှည်ခံပစ္စည်းများ၊ (အစားအသောက်၊ အဝတ်အထည်စသည့်) တာရှည်မခံသောပစ္စည်းများနှင့် (ကျန်းမာရေး၊ သယ်ယူပို့ဆောင်ရေး၊ ဆက်သွယ်ရေးစသည့်) ဝန်ဆောင်မှုများ ဖြစ်ပါသည်။

လစာငွေသည် မည်သို့ပင်ရှိစေ ကုန်ပစ္စည်းနှင့် ဝန်ဆောင်မှုတစ်မျိုးစီအတွက် သင်သုံးစွဲသော သင့်ဝင်ငွေ၏ အချိုးအစားသည် သင်၏ကြွယ်ဝမှုအဆင့်ကို ကောင်းစွာညွှန်ပြနေပါသည်။ ၎င်းသည် သင့်ဘဝ၏အဆင့်အတန်း ဖြစ်ပါသည်။

**'ယှဉ်ပြိုင်မှု' ဆိုတာဘာလဲ**

တူညီသောဈေးကွက်ထဲတွင် ကုမ္ပဏီနှစ်ခု၊ သို့မဟုတ် နှစ်ခုထက်ပိုသော ကုမ္ပဏီများက တူညီသောကုန်ပစ္စည်းများကို ပေးသွင်းပြီး ကုမ္ပဏီတစ်ခုစီက ၎င်းတို့၏ အကျိုးအမြတ်များကို အများဆုံးဖြစ်ရန် ကြိုးစား၍ လုပ်ငန်းဆောင်ရွက်ကြခြင်းသည် ယှဉ်ပြိုင်မှု (Competition) ဖြစ်ပါသည်။

လွတ်လပ်သောဈေးကွက်တစ်ခုအတွင်း ယှဉ်ပြိုင်မှုသည် ဝယ်ယူရန် တတ်နိုင်သောကုန်ပစ္စည်းနှင့် ဝန်ဆောင်မှုများ၏ ဖြန့်ဖြူးမှုကိုသေချာစေသည့် အကောင်းဆုံးနည်းလမ်းဖြစ်သည်ဟု စီးပွားရေးပညာရှင်အများစုက ယုံကြည်ကြပါသည်။

ယှဉ်ပြိုင်မှုသည် ဈေးဝယ်သူများကို ဆွဲဆောင်ရန်အတွက် ကုန်ပစ္စည်းနှင့် ဝန်ဆောင်မှုအသစ်များကိုဖော်ထုတ်ရန် ကုမ္ပဏီများကို

တိုက်တွန်းအားပေးပြီး ၎င်းတို့၏ဈေးနှုန်းများကို နည်းအောင်ထိန်းထား ရန်လည်း အတင်းအကျပ်ခိုင်းစေပါသည်။

အခြားသူများကမူ ကုမ္ပဏီများသည် တူညီသောဈေးကွက်များတွင် အချင်းချင်းယှဉ်ပြိုင်ရန်အတွက် လုပ်ငန်းစဉ်များကို ပုံတူကူးယူကြသောကြောင့် ယှဉ်ပြိုင်မှုသည်အကျိုးမရှိဟု ယုံကြည်ကြပါသည်။

**'တစ်ဦးတည်းချုပ်ကိုင်မှုနှင့် လူတစ်စုချုပ်ကိုင်မှု' ဆိုတာဘာလဲ**

လုပ်ငန်းတစ်ခုက အခြားလုပ်ငန်းများအားလုံးကို ဘေးဖယ်၍ ဈေးကွက်တစ်ခုကို စိုးမိုးထားခြင်းသည် တစ်ဦးတည်းချုပ်ကိုင်မှု **(Monopoly)** ဖြစ်ပါသည်။ အရေအတွက် အလွန်နည်းသောလုပ်ငန်းတစ်စုက ယင်းသို့ စိုးမိုးထားခြင်းသည် လူတစ်စုချုပ်ကိုင်မှု **(Oligopoly)** ဖြစ်ပါသည်။

တစ်ဦးတည်းချုပ်ကိုင်ထားသောကုမ္ပဏီများသည် ကုန်ပစ္စည်းများကို ဈေးနှုန်းမြှင့်တင်ပြီး အရေအတွက်နည်းနည်း ထုတ်လုပ်လေ့ရှိပါသည်။

ယင်းသို့ပြုလုပ်ခြင်းသည် ကုန်ပစ္စည်း၏အကျိုးအမြတ်များကို လူအနည်းငယ်ကသာခံစားပြီး မမျှတသော အကျိုးအမြတ်များက ချမ်းသာကြွယ်ဝသော အစုရှယ်ယာရှင်များထံသို့ ရောက်ရှိသွားသည့်အတွက် အများပြည်သူကို ဆင်းရဲစေပါသည်။

လုပ်ငန်းစတင်ရာတွင် ကုန်ကျစရိတ်များပြားခြင်းနှင့် ကုန်ပစ္စည်းအများအပြားထုတ်လုပ်လျှင် ကုန်ကျစရိတ် ပိုမိုသက်သာသွားခြင်းက အခြေခိုင်နေသောကုမ္ပဏီကြီးတစ်ခုကို ကုမ္ပဏီအသစ်တစ်ခုထက်သာသော အားသာချက်ကိုပေးပြီး ၎င်း၏ တစ်ဦးတည်းချုပ်ကိုင်မှုကို ကာကွယ်ပေးပါသည်။

လူတစ်စု၏ ချုပ်ကိုင်မှုလုပ်ထားသောကုမ္ပဏီများသည် တရားဝင်ဖြစ်စေ၊ အခြားနည်းဖြင့်ဖြစ်စေ ပူးပေါင်းညှိနှိုင်းအဖွဲ့ တစ်ခုကို ဖွဲ့စည်းပြီး မြင့်မားသောဈေးနှုန်းများကို တမင်ဖန်တီး သတ်မှတ်ကောင်း သတ်မှတ်

နိုင်ပါသည်။

ရေကဲ့သို့သော အချို့ဈေးကွက်များသည် 'သဘာဝကိုအကြောင်းခံသော' တစ်ဦးတည်းချုပ်ကိုင်သည့် ဈေးကွက်များ ဖြစ်ပါသည်။ သာမန်အားဖြင့် ၎င်းဈေးကွက်များကို အစိုးရအဖွဲ့အစည်း တစ်ခုကထိန်းချုပ်၍ ဈေးနှုန်းများသတ်မှတ်ပေးပါသည်။

**'စည်းကမ်းထိန်းသိမ်းမှု' ဆိုတာဘာလဲ**

များသောအားဖြင့် ဈေးကွက်အတွင်းမြင်တွေ့ရသော မအောင်မြင်မှုတစ်ခုကို ပြုပြင်တည့်မတ်၍ စီးပွားရေး၊ လူမှုရေး၊ သို့မဟုတ် သဘာဝပတ်ဝန်းကျင်ဆိုင်ရာ အကျိုးကျေးဇူးများကိုရရှိရန် စည်းကမ်းထိန်းသိမ်းမှု (Regulation) ကို အကောင်အထည်ဖော် ဆောင်ရွက်ပါသည်။

**လက်တွေ့အားဖြင့် မည်သည့်ဈေးကွက်မျှ အမှန်တကယ် "လွတ်လပ်ခြင်း" မရှိပါ။ အစိုးရသည် ကျွန်ုပ်တို့၏ အပြုအမူကို ထိန်းချုပ်ရန် တစ်ချိန်လုံး ဝင်ရောက်စွက်ဖက်နေပါသည်။** လောင်စာနှင့် စီးကရက်ကို အခွန်စည်းကြပ်ခြင်းသည် ယင်းသို့စွက်ဖက်ခြင်း၏ သာဓကတစ်ခု ဖြစ်ပါသည်။

အစားအသောက်နှင့် ဆောက်လုပ်ရေးကဲ့သို့သောကဏ္ဍများတွင် ကုန်ပစ္စည်းထုတ်လုပ်သူများနှင့် ဝန်ဆောင်မှုပေးသူများကို အနိမ့်ဆုံးစံချိန်စံညွှန်းများအပေါ် အာမခံရန်အတွက် ခွင့်ပြုမိန့်လိုင်စင်ထုတ်ပေးရာတွင် စည်းကမ်းထိန်းသိမ်းမှုကို အသုံးပြုပါသည်။

ဘေးကင်းလုံခြုံသော စံချိန်စံညွှန်းများ၊ အနိမ့်ဆုံးလုပ်ခများဖြင့် အလုပ်သမားများ၏ အခွင့်အရေးများကို ကာကွယ်ပေးရန်နှင့် သဘာဝပတ်ဝန်းကျင်ကို ကာကွယ်ရန်လည်း စည်းကမ်းထိန်းသိမ်းမှုကို အသုံးပြုပါသည်။

ထို့အပြင် စားသုံးသူများက သင့်တင့်မျှတသော ဈေးနှုန်းကိုပေး၍ ကောင်းမွန်သောဝန်ဆောင်မှုရသည်ကို သေချာစေရန်အတွက် ရေနှင့်

လှျပ်စစ်ဓာတ်အားကဲ့သို့ သဘာဝကိုအကြောင်းခံသော တစ်ဦးတည်းချုပ်ကိုင်မှုများကို ထိန်းချုပ်ရန် စည်းကမ်းထိန်းသိမ်းမှုကို အသုံးပြုပါသည်။

၁၀၊ လွတ်လပ်မှုနှင့် အိုးအိမ်စည်းစိမ်ကို ကာကွယ်စောင့်ရှောက်ရန်မှလွဲ၍ စီးပွားရေးဘဝ၏ နယ်ပယ်အားလုံးတွင် စည်းမျဉ်းစည်းကမ်းများအသုံးပြုခြင်းကို လွတ်လပ်သောဈေးကွက်ကို ယုံကြည်သူများက ဆန့်ကျင်ကြပါသည်။

စည်းကမ်းထိန်းသိမ်းမှုသည် စီးပွားရေးလုပ်ငန်းအတွက် အဟန့်အတားတစ်ခုဖြစ်ပြီး များသောအားဖြင့် ရည်ရွယ်ထားသောအရာများအပြင် အခြားအကျိုးဆက်များရှိသည်ဟု ၎င်းတို့က စောဒကတက်ကြပါသည်။

၁၉၈၀ ပြည့်လွန်နှစ်များက အမေရိကန်နိုင်ငံတွင် **Ronald Reagan** ၏ လက်အောက်၌လည်းကောင်း၊ ဗြိတိန်နိုင်ငံတွင် **Magaret Thatcher** ၏ လက်အောက်၌လည်းကောင်း ဈေးကွက်များစွာကို စည်းကမ်းထိန်းသိမ်းမှုများမှ ကင်းလွတ်ခွင့်ပြုခဲ့ပါသည်။

## 'ကြွေးမြီ' ဆိုတာဘာလဲ

ကြွေးမြီ (**Debt**) ဆိုသည်မှာ ဘဏ်နှင့် အခြားအဖွဲ့အစည်းများထံမှ (ပါဝင်သူအများသဘောတူ) ချေးငွေချေးယူခြင်း၊ သို့မဟုတ် အခြားနိုင်ငံများထံမှ (နှစ်ဦးနှစ်ဘက်သဘောတူ) ချေးငွေချေးယူခြင်း ဖြစ်ပါသည်။

အစိုးရများသည်လည်း ငွေချေးစာချုပ်များနှင့် အစိုးရငွေချေးလက်မှတ်များထုတ်ဝေခြင်း၊ ငွေစက္ကူများရိုက်နှိပ်ခြင်းများဖြင့် ပြည်တွင်းတွင် ငွေချေးယူနိုင်ပါသည်။

၂၀၀၉ ခုနှစ်၊ ဇွန်လမှစ၍ အမေရိကန်နိုင်ငံတွင် အကြီးမားဆုံးနိုင်ငံခြားငွေကြွေးမြီ (ဒေါ်လာ ၁၃. ၄၅ ထရီလီယံ ) (သန်းပေါင်း ၁၃. ၄၅ သန်း) ရှိခဲ့ပြီး ဗြိတိန်နိုင်ငံက (ဒေါ်လာ ၉ ထရီလီယံ) (သန်းပေါင်း ၉ သန်း) ဖြင့် ၎င်း၏နောက်က လိုက်ခဲ့ပါသည်။ ပုဂ္ဂလိကများထံမှ ငွေကြေးမရရှိနိုင်သောနေရာများတွင် ချေးငွေများပေးခြင်းဖြင့် ဖွံ့ဖြိုးဆဲ

နိုင်ငံများကိုကူညီရန် ကမ္ဘာ့ဘဏ်ကို ဖွဲ့စည်းထားပါသည်။ သို့သော် ပေါက်ဈေးဖြင့်သာ ထုတ်ချေးပါသည်။

၁၉၇၀ ပြည့်လွန်နှစ်များက ရေနံအကျပ်အတည်းသည် ဖွံ့ဖြိုးဆဲနိုင်ငံများစွာကို ကြွေးမြီပိုမိုများပြားစေ၍ လူအများကမနှစ်မြို့သော ခြိုးခြံချွေတာရေးဆောင်ရွက်ချက်များကို စတင်ကျင့်သုံးစေခဲ့ပါသည်။

၂၀၀၂ ခုနှစ်တွင် အာဖရိကသည် ကြွေးမြီဒေါ်လာ ၂၉၅ ဘီလီယံ ရှိခဲ့ပါသည်။ အာဖရိကတွင် ကူညီထောက်ပံ့မှုအဖြစ်ရရှိငွေ တစ်ဒေါ်လာရှိလျှင် ကြွေးမြီပြန်ဆပ်နေရသည့်ဒေါ်လာ ၃ ဒေါ်လာရှိမည်ဟု ခန့်မှန်းထားပါသည်။

## 'ငွေကြေးဖောင်းပွမှု' ဆိုတာဘာလဲ

ငွေကြေးဖောင်းပွမှု (Inflation) ဆိုသည်မှာ CPI (Consumer Price Index) (စားသုံးကုန် ဈေးနှုန်းအညွှန်းကိန်း) ကဲ့သို့ အညွှန်းကိန်းများဖြင့်တိုင်းတာမှုအရ အလုံးစုံနေထိုင်စားသောက်မှုစရိတ် တိုးလာခြင်းဖြစ်ပါသည်။

ငွေကြေးဖောင်းပွမှုသည် မသေချာမှုကိုဖန်တီး၍ ရင်းနှီးမြှုပ်နှံမှုကို အဟန့်အတားဖြစ်စေသောကြောင့် စီးပွားရေးလုပ်ငန်းအတွက် မကောင်းပါ။ ဈေးနှုန်းများ မြင့်တက်သောကြောင့် အလုပ်သမားများကလည်း လုပ်ခများကိုတိုး၍တောင်းဆိုကြပါသည်။

ငွေကြေးဖောင်းပွမှုသည် ငွေစုသူများနှင့် ပုံသေဝင်ငွေရှိသောသူများအတွက် မကောင်းပါ။ သို့ရာတွင် ဖြစ်ပေါ်နေသည့် ငွေတန်ဖိုးအရ ငွေချေးယူသည့် ကုန်ကျစရိတ်လျော့နည်းသွားသည့်အတွက် ငွေချေးယူသူများအတွက်မူ ကောင်းပါသည်။ ငွေကြေးဖောင်းပွမှုနှုန်းနည်းခြင်းသည် စားသုံးသူများ၏ သုံးစွဲမှုကိုအားပေး၍ အလုပ်အကိုင်ကိုလည်း တိုးစေသည်ဟု Phillips ၏ ပုံပြမျဉ်းကွေးက အထင်အရှားပြထားပါသည်။

ငွေကြေးဖောင်းပွမှုသည် နိုင်ငံအတွင်း လည်ပတ်နေသော ငွေကြေးပမာဏ၊ တစ်နည်းအားဖြင့် စီးပွားရေးအဆောက်အအုံထဲတွင်

ရှိသော ငွေကြေးပမာဏ မတန်တဆကြီးထွားမှု၏ရလဒ်ဖြစ်ကြောင်း စီးပွားရေးပညာရှင်အများစုက သဘောတူကြပါသည်။

လှည့်လည်သုံးစွဲနေသော ငွေကြေးပမာဏကို လျှော့ချခြင်း၊ အခွန်ကောက်ခံမှုကို တိုးမြှင့်ခြင်းနှင့် အစိုးရအသုံးစရိတ်အား ထိန်းချုပ်ပေးခြင်းများကို စီးပွားရေးပညာရှင်အများစုက ထောက်ခံကြပါသည်။

**'ငွေကျုံ့ခြင်း' ဆိုတာဘာလဲ**

ငွေကြေးဖောင်းပွမှု၏ ဆန့်ကျင်ဘက်ဖြစ်သော ငွေကျုံ့ခြင်း (Deflation) သည် CSI (Consumer Spending Index) (စားသုံးသူသုံးစွဲမှုအညွှန်းကိန်း) ကဲ့သို့သော အညွှန်းကိန်းများဖြင့် တိုင်းထွာမှုအရ နေထိုင်စားသောက်မှုစရိတ် လျော့နည်းသွားခြင်းတစ်ခု ဖြစ်ပါသည်။

လှည့်လည်သုံးစွဲငွေပမာဏ လျော့နည်းသွားခြင်းနှင့် သုံးစွဲမှုယုတ်လျော့သွားခြင်းက ငွေကျုံ့ခြင်းကို ဖြစ်ပေါ်စေပါသည်။ ကုန်ပစ္စည်းဈေးနှုန်းများကျဆင်းသော်လည်း ငွေကြေးတန်ဖိုးက မြင့်တက်နေခြင်းကို ဆိုလိုပါသည်။

ဈေးနှုန်းများကျဆင်းသောကြောင့် ဈေးနှုန်းများထပ်မံကျဆင်းသည်အထိ စောင့်၍ရသေးသည်ဟု တွက်ဆလျက် စားသုံးသူများက သုံးစွဲရန်ဆန္ဒမရှိကြပါ။

ငွေကျုံ့ခြင်း၏အဓိပ္ပာယ်မှာ ပစ္စည်းဥစ္စာသည် လက်ရှိငွေတန်ဖိုးအရ ပို၍တန်ဖိုးနည်းသည်ဟူသော အဓိပ္ပာယ်လည်းဖြစ်၍ ယုံကြည်မှုကို ဆုံးရှုံးစေပြီး လူအများကို ပိုမိုစုဆောင်းရန် အားပေးပါသည်။

ငွေကျုံ့ခြင်းသည် အဆိုးသံသရာတစ်ခု ဖြစ်ပါသည်။ ထုတ်လုပ်မှုကျဆင်းသောကြောင့် အလုပ်သမားများ အလုပ်မှအဖြုတ်ခံရပြီး စက်ရုံများအပိတ်ခံရသည့်အတွက် လူအများတွင် သုံးစရာငွေပို၍ပင် နည်းသွားပါသည်။ ကုစားမှုသည် များသောအားဖြင့် 'Quantitative Easing' ခေါ် ဗဟိုဘဏ်က ငွေချေးစာချုပ်များကို ဝယ်ယူ၍ စီးပွားရေးအဆောက်အအုံအတွင်းသို့ ငွေကြေးများ ပြန်လည်ထည့်သွင်းခြင်းနှင့် သုံးစွဲမှုကို

အားပေးရန်အတွက် အတိုးနှုန်းများကိုလျှော့ချပေးခြင်း ရောနှောပါဝင်နေပါသည်။

၁၉၇၀ ပြည့်လွန်နှစ်များတွင် 'Stagflation' ခေါ် စီးပွားရေးတုံ့နေခြင်းနှင့် ငွေကြေးဖောင်းပွမှု နှစ်ခုရောနေသည့်ဖြစ်ရပ်တစ်ခု ရောက်ရှိလာခြင်းကြောင့် စီးပွားရေးပညာရှင်များ ဦးနှောက်ခြောက်ခဲ့ရပါသည်။ ၎င်းသည် ဖြစ်နိုင်လိမ့်မည်မဟုတ်ဟု ယူဆခဲ့သောအရာဖြစ်ပါသည်။

**'အရင်းအနှီး' ဆိုတာဘာလဲ**

ကျမ်းရိုးဘောဂဗေဒတွင် အရင်းအနှီး (Capital) သည် စက်မှုလုပ်ငန်းရှိ "ထုတ်လုပ်မှု၏အခြေခံအကြောင်းရင်း" သုံးခုထဲမှ တစ်ခုဖြစ်ပါသည်။ ကျန်သည့်နှစ်ခုမှာ မြေနှင့်လုပ်အားဖြစ်ပါသည်။အရင်းအနှီးတွင် ငွေကြေးဆိုင်ရာပိုင်ဆိုင်မှုများ ပါဝင်သကဲ့သို့ အဆောက်အအုံများ၊ လက်နက်ကိရိယာများ၊ ယာဉ်များနှင့် ကုန်ထုတ်လုပ်မှုလုပ်ငန်းစဉ်တွင် အသုံးပြုသော အခြားအရာများလည်း ပါဝင်သည်။ သို့ရာတွင် ကုန်ကြမ်းပစ္စည်းများမပါဝင်ပါ။

ပုဂ္ဂလိကသတ်မှတ်ချက်များအရ အရင်းအနှီးတွင် သင်၏အိမ်၊ ပရိဘောဂ၊ မော်တော်ယာဉ်၊ စတော့များ ပါဝင်ပြီး သင်အမွေဆက်ခံရရှိထားသည့် စုဆောင်းထားသော တံဆိပ်ခေါင်းများပင်လျှင် သင့်အရင်းအနှီး၏ တစ်စိတ်တစ်ပိုင်း ဖြစ်ပါသည်။

အရင်းအနှီးအမျိုးအစားတစ်ခုကို ရောင်းချခြင်းဖြင့် အမြတ်အစွန်းတစ်စုံတစ်ရာကို သင်ရရှိလျှင် အရင်းအနှီးမှရသော အမြတ်အစွန်းအတွက် အခွန်ပေးဆောင်ရန် သင့်တွင်တာဝန်ရှိပါသည်။

အခြားအရင်းအနှီးအမျိုးအစားများသည် ပို၍ပို၍ အရေးကြီးလာနေပါသည်။ ၎င်းတို့အထဲတွင် မြစ်များကဲ့သို့ သဘာဝအရင်းအနှီး၊ သို့မဟုတ် သဘာဝအသွင်သဏ္ဍာန်များ၏တန်ဖိုး ပါဝင်ပါသည်။

"လူမှုရေးအရင်းအနှီး" သည် စီးပွားရေးအဆောက်အအုံတစ်ခုထဲရှိ လူမှုကွန်ရက်များကိုရည်ညွှန်းပြီး "အသိပညာအရင်းအနှီး" သည်

အကြံအစည်စိတ်ကူးများ၏တန်ဖိုးကို ရည်ညွှန်းပါသည်။

**'လူ့စွမ်းအားအရင်းအနှီး' ဆိုတာဘာလဲ**

လူ့စွမ်းအားအရင်းအနှီး (Human capital) သည် အလုပ်သမားအင်အားတစ်ရပ်၏ အသိပညာ၊ ကျွမ်းကျင်မှုနှင့် (အချိန်မှန်ခြင်း၊ စိတ်ဓာတ်တက်ကြွခြင်း၊ ရိုးသားဖြောင့်မတ်ခြင်းကဲ့သို့သော) တစ်ဦးချင်းပင်ကိုအရည်အချင်းများကို ရည်ညွှန်းပါသည်။ ကျမ်းရိုးဘောဂဗေဒတွင် အလုပ်သမားများကို မိမိစိတ်ကြိုက် အစားထိုးနိုင်သော လုပ်အားအဖြစ်များသောအားဖြင့် အလွယ်တကူ ယူဆထားပါသည်။ ၁၉၅၀ နှင့် ၆၀ ပြည့်လွန်နှစ်များတွင် ၎င်းအရာများအားလုံး ပြောင်းလဲသွားခဲ့ပါသည်။

**ပညာရေး၊ လေ့ကျင့်သင်ကြားရေးနှင့် ကျန်းမာရေးတွင် ရင်းနှီးမြှုပ်နှံခြင်းသည် နိုင်ငံတစ်နိုင်ငံ၏ စီးပွားရေးတွင် ကြီးမားသော အကျိုးကျေးဇူးများကို ရရှိစေသည်ဟု သုတေသနအသစ်က ပြခဲ့ပါသည်။** ဤအရင်းအမြစ်သည် မလိုချင်လျှင် မိမိစိတ်ကြိုက် ဖယ်ရှားပစ်နိုင်သော ရုပ်ဝတ္ထုပစ္စည်းတစ်ခုကို ကိုယ်စားမပြုဘဲ အမြဲတမ်းရှိနေသော ပိုင်ဆိုင်ပစ္စည်းကို ကိုယ်စားပြုသဖြင့် ၎င်းကို လူ့စွမ်းအားအရင်းအနှီးအဖြစ် ဖော်ပြခဲ့ပါသည်။

Jacob Mincer နှင့် Gary Becker တို့သည် လူမှုရေးအကြောင်းတရားများနှင့် စီးပွားရေးရလဒ်များကို အပြန်အလှန်ဆက်စပ်ပေးသော နည်းလမ်းသစ်ကို တီထွင်ခဲ့သော ရှေ့ဆောင်ပုဂ္ဂိုလ်များ ဖြစ်ပါသည်။ ၎င်းတို့က "သတ်မှတ်ထားသောအရင်းအနှီး" နှင့် "ယေဘုယျအရင်းအနှီး" ကို ဖော်ထုတ်သတ်မှတ်ပေးခဲ့ပါသည်။

သတ်မှတ်ထားသော ကျွမ်းကျင်မှုများသည် ဝန်ထမ်းအချို့အတွက်အသုံးဝင်၍ ယေဘုယျအရည်အချင်းများသည် ဝန်ထမ်းအားလုံးအတွက် အသုံးဝင်ပါသည်။ ထို့အပြင် စနစ်တကျလေ့ကျင့်သင်ကြားပေးမှုက အလုပ်ခွင်ရှိ လူတစ်ယောက်၏ လုပ်ရည်ကိုင်ရည်အပေါ်တွင် လွှမ်းမိုးမှုရှိသလောက် လူတစ်ဦးချင်း၏ ပုဂ္ဂလိကကြီးပြင်းလာမှုကလည်း

လုပ်ရည်ကိုင်ရည်အပေါ်တွင် လွှမ်းမိုးမှုရှိနိုင်ကြောင်း ၎င်းတို့ကပြခဲ့ပါသည်။

**'အလုပ်သမားဈေးကွက်' ဆိုတာဘာလဲ**

ကျမ်းရိုးဘောဂဗေဒတွင် အလုပ်သမား (Labour) ဈေးကွက်သည် အခြားဈေးကွက်အားလုံးကဲ့သို့ပင် လုပ်ဆောင်ပါသည်။ ရောင်းလိုအားနှင့် ဝယ်လိုအားက ဈေးနှုန်း (အလုပ်သမား၏လုပ်ခ) နှင့် အရေအတွက် (အလုပ်ခန့်ထားသော အရေအတွက်) ကို အဆုံးအဖြတ်ပေးပါသည်။

အပြည့်အဝလွတ်လပ်သော ဈေးကွက်တစ်ခုတွင် ရောင်းလိုအားနှင့် ဝယ်လိုအားကိုက်ညီသည့် ဟန်ချက်ညီသော အခြေအနေတစ်ခုကို ရောက်ရှိနိုင်ပြီး ထိုအခြေအနေတွင် အလုပ်လက်မဲ့ဟူ၍ ရှိမည်မဟုတ်ပါ။

ဤသီအိုရီအရ **အလုပ်လက်မဲ့ဖြစ်ခြင်းကို "ဟန်ချက်ညီသော အခြေအနေရှိလုပ်ခ" ကို ငြင်းဆန်သော အလုပ်သမားများက ဖြစ်ပွားစေခြင်း ဖြစ်ပါသည်။ သို့ဖြစ်၍ အလုပ်လက်မဲ့ဖြစ်ခြင်းအများစုသည် ၎င်းတို့၏ဆန္ဒအလျောက်သာ ဖြစ်ပါသည်။**

အမှန်မှာ အလုပ်လက်မဲ့ဖြစ်မှု မြင့်မားခြင်းသည် အလုပ်ရှင်များကို အကျိုးရှိစေပါသည်။ အဘယ့်ကြောင့်ဆိုသော် ယင်းသို့ဖြစ်နေခြင်းသည် အရန်သင့်ဖြစ်နေသော အလုပ်သမားများကို အမြဲပေးနေပြီး လုပ်ခများကို လျှော့ချရန် အထောက်အကူပြုနေသောကြောင့် ဖြစ်ပါသည်။

အလုပ်အကိုင်အခွင့်အလမ်းများကို တိုးမြှင့်ရန် လှုံ့ဆော်ပေးသော သုံးစွဲမှုကိုထောက်ခံအားပေးခြင်းဖြင့် အလုပ်လက်မဲ့ဖြစ်မှု မြင့်မားခြင်းကို ရှောင်လွှဲ၍မရ ဟူသော အမြင်ကို Keynes က စိန်ခေါ်ခဲ့သည်။

ဈေးကွက်အမြင်သည် အလုပ်အကိုင်ရှာဖွေရာတွင် ပုဂ္ဂိုလ်ရေးဆက်သွယ်မှုများ၏ လွှမ်းမိုးမှုနှင့် ပထဝီဆိုင်ရာအကြောင်းတရားများ အပါအဝင် 'လူသား၏အစိတ်အပိုင်း' ကို ဥပေက္ခာပြုပါသည်။

**'ကုန်ထုတ်လုပ်မှုစွမ်းအား' ဆိုတာဘာလဲ**

ကုန်ထုတ်လုပ်မှုစွမ်းအား (Productivity) ဆိုသည်မှာ ၎င်း၏ ဝန်ထမ်းများလုပ်ကိုင်သော အလုပ်ချိန်နာရီနှင့် နှိုင်းယှဉ်ထားသောကုမ္ပဏီ၊ သို့မဟုတ် နိုင်ငံတစ်ခု၏ ကုန်ထုတ်လုပ်မှု ပမာဏအတိုင်းအတာတစ်ခု ဖြစ်ပါသည်။ တစ်နည်းဆိုရလျှင် ကုန်ထုတ်လုပ်မှုစွမ်းအားသည် ကုန်ထုတ်လုပ်မှုပမာဏကို အလုပ်ချိန်နာရီဖြင့်စားခြင်းနှင့် ညီမျှပါသည်။

ကုမ္ပဏီတစ်ခုသည် တူညီသောအလုပ်သမားနာရီအတွက် ၎င်း၏ ကုန်ထုတ်လုပ်မှုပမာဏကို တိုးမြှင့်ပေးခြင်းဖြင့်လည်းကောင်း၊ တူညီသောကုန်ထုတ်လုပ်မှုပမာဏကို ပို၍ လျင်မြန်စွာထုတ်လုပ်ခြင်းဖြင့်လည်းကောင်း ကုန်ထုတ်လုပ်မှုစွမ်းအားကို တိုးအောင်လုပ်နိုင်ပါသည်။ နည်းပညာတိုးတက်မှုများဖြင့် ကုန်ပစ္စည်းတစ်ခုကို ဖန်တီးရန်ကြာသော အချိန်ကို လျှော့ချ၍လည်း ကုန်ထုတ်လုပ်မှုစွမ်းအားကို မကြာခဏ တိုးမြှင့်ပေးပါသည်။

၁၉၀၀ ပြည့်လွန်နှစ်များက အမေရိကန်နိုင်ငံအလုပ်ရုံများတွင် တပ်ဆင်ရေးလမ်းကြောင်း (Assembly line) နှင့် အချိန်နှင့်လှုပ်ရှားမှုဆိုင်ရာ (Time-motion) လုပ်ငန်းနည်းစနစ်များကို စတင်ကျင့်သုံးခြင်းဖြင့် ကားတစ်စီးတည်ဆောက်ရန် ကြာသောအချိန်ကို ထက်ဝက်လျှော့နည်းသွားအောင် လုပ်ခဲ့ပါသည်။ လုပ်ခလစာဆွဲဆောင်မှုနှင့် အလုပ်ပတ်ဝန်းကျင် တိုးတက်မှုများဖြင့်လည်း ကုန်ထုတ်လုပ်မှုစွမ်းအားတွင် တိုးတက်မှုများ ရရှိနိုင်ပါသည်။

**'GDP' ဆိုတာဘာလဲ**

GDP သည် ပြည်တွင်းအသားတင်ထုတ်လုပ်မှု (Gross Domestic Product) ကို ကိုယ်စားပြုပါသည်။ ၎င်းသည် နိုင်ငံတစ်နိုင်ငံတွင် တစ်နှစ်အတွင်းစားသုံးသော ကုန်ပစ္စည်းနှင့်ဝန်ဆောင်မှုများ၏ စုစုပေါင်းပမာဏ ဖြစ်ပါသည်။ GDP တွင် ရင်းနှီးမြှုပ်နှံမှု၊ အစိုးရ၏ သုံးစွဲမှုနှင့် အသားတင်ပို့ကုန်များလည်း ပါဝင်ပါသည်။ 'အသားတင်

ပို့ကုန်များ' သည် နိုင်ငံတစ်နိုင်ငံက ပြည်ပမှတင်သွင်းသည့် သွင်းကုန်ပမာဏနှင့် ပြည်ပသို့တင်ပို့သည့် ပို့ကုန်ပမာဏ၏ ခြားနားချက်ဖြစ်ပါသည်။ ၎င်းကို 'ကုန်သွယ်မှုရှင်းတမ်း' ဟုလည်း သိထားကြပါသည်။

GDP သည် နိုင်ငံတစ်နိုင်ငံရှိ စီးပွားရေးလုပ်ငန်းပမာဏကို တိုင်းတာသော အသုံးဝင်သောတိုင်းတာမှုတစ်ခု ဖြစ်ပါသည်။ သို့ရာတွင် လူနေမှုအဆင့်အတန်း၊ သို့မဟုတ် ဘဝ၏အရည်အသွေးကို တိုင်းတာရာတွင်မူ ညံ့ဖျင်းသောတိုင်းတာမှုတစ်ခု ဖြစ်ပါသည်။ GDP သည် အရေးကြီးသောအရာများစွာကို ချန်လှပ်ထားပါသည်။ ဥပမာ- ဆင်းရဲချမ်းသာကွာဟမှု၊ အသက်ကြီးသူများအတွက် စီးပွားရေးနှင့် သဘာဝပတ်ဝန်းကျင်ကို ရေရှည်တည်တံ့အောင် ထိန်းသိမ်းမှုများ ဖြစ်ပါသည်။ လူသားဖွံ့ဖြိုးမှုညွှန်းကိန်း (Human Development Index - HDI) သည်ဘဝ၏အရည်အသွေးကို တိုင်းတာရန် ကြိုးစားပါသည်။ ၎င်းက GDP ကို ပျမ်းမျှသက်တမ်းနှင့် ပညာရေးကဲ့သို့သောကိန်းများနှင့် ပေါင်းစပ်ထားပါသည်။

အခြားညွှန်းကိန်းများတွင် စစ်မှန်သောတိုးတက်မှုညွှန်းကိန်း၊ အမျိုးသားအသားတင်ပျော်ရွှင်မှု၊ ဥရောပဘဝအရည်အသွေး လေ့လာဆန်းစစ်မှုနှင့် ပျော်ရွှင်သောဂြိုလ်ကမ္ဘာညွှန်းကိန်းများ ပါဝင်ပါသည်။ ၂၀၀၉ ခုနှစ်တွင် အမေရိကန်နိုင်ငံသည် ဒေါ်လာ ၁၄. ၂၆ ထရီလီယံဖြင့် အမြင့်ဆုံး GDP ရှိခဲ့ပါသည်။ ဥရောပသမဂ္ဂတစ်ခုလုံး၏ GDP မှာ ဒေါ်လာ ၁၄. ၅ ထရီလီယံ ရှိပါသည်။

## 'ကုန်သွယ်ရေးရှင်းတမ်း' ဆိုတာဘာလဲ

ကုန်သွယ်ရေးရှင်းတမ်း (Balance of Trade) သည် နိုင်ငံတစ်နိုင်ငံ၏ ပို့ကုန်ပမာဏနှင့် သွင်းကုန်ပမာဏခြားနားချက် ဖြစ်ပါသည်။ ၎င်းကို အသားတင်ပို့ကုန်ဟုလည်း သိထားကြပါသည်။

၎င်း၏သွင်းကုန်များထက်ပို၍ ပြည်ပသို့ကုန်ပစ္စည်းများ တင်ပို့သောနိုင်ငံတစ်နိုင်ငံတွင် ကုန်သွယ်ရေးပိုငွေရှိပြီး ၎င်း၏ပို့ကုန်များထက်



ပို၍ ပြည်ပမှကုန်ပစ္စည်းများတင်သွင်းသော နိုင်ငံတစ်နိုင်ငံတွင် ကုန်သွယ် ရေးလိုငွေ ရှိပါသည်။ အစဉ်အလာအရ နိုင်ငံအများစုသည် စီးပွားရေးကို နိုးထလာစေရန်နှင့် သီးသန့်အရန်နိုင်ငံခြားငွေကို တည်ဆောက်ရန် အတွက် ပြည်ပမှသွင်းကုန်ထက် ပြည်ပသို့ပို့ကုန်ကို ပို၍များအောင်ပို့ရန် ကြိုးစားကြပါသည်။

အမေရိကန်နိုင်ငံသည် ၁၉၆၀ ပြည့်လွန်နှစ်များမှစ၍ ကုန်သွယ် မှုလိုငွေ ဖြစ်ပေါ်ခဲ့ပါသည်။ ဤလိုငွေကို ဖြည့်ဆည်းရန်အတွက် ဒေါ်လာ ငွေများကို ပိုမိုရိုက်နှိပ်ခဲ့ပါသည်။ ထိုသို့ဆောင်ရွက်ခြင်းသည် ကျွန်ုပ်တို့ အားလုံးက ဒေါ်လာငွေကိုလက်ခံပြီးယူနေသရွေ့ အဆင်ပြေပါသည်။ ၂၀၀၉ ခုနှစ်တွင် အမေရိကန်နိုင်ငံ၏ ကုန်သွယ်ရေးလိုငွေသည် ဒေါ်လာ ဘီလီယံ ၃၈၀ ရှိပြီး တရုတ်နိုင်ငံ၏ကုန်သွယ်ရေးပိုငွေမှာ ဒေါ်လာ ၂၉၆ ဘီလီယံ ရှိပါသည်။

## 'ချေးငွေ' ဆိုတာဘာလဲ

အရှင်းဆုံးဆိုရလျှင် ချေးငွေ (Credit) ဆိုသည်မှာ ချေးယူလိုက် သောငွေ ဖြစ်ပါသည်။ နောင်တစ်ချိန်တွင် ပြန်လည်ပေးဆပ်ရန် သဘော တူညီမှုဖြင့် ငွေ၊ ကုန်ပစ္စည်း၊ သို့မဟုတ် ဝန်ဆောင်မှုကဲ့သို့သော အရာ တစ်ခုကို ယခုသင်ရရှိပါသည်။ ချေးငွေကို များသောအားဖြင့် ဘဏ်များက ပေးပါသည်။ ကြွေးဝယ်ကတ်တစ်ခုကိုအသုံးပြုခြင်း၊ အိမ်အပေါင်ချေးငွေ တစ်ခုကိုရယူခြင်း၊ သို့မဟုတ် ကားတစ်စီးဝယ်ရန် ချေးငွေကိုရယူခြင်းသည် ချေးငွေဖြင့်ဝယ်ယူခြင်းပင် ဖြစ်သည်။

ချေးငွေသည် အသုံးဝင်ပါသည်။ ၎င်းသည် အွန်လိုင်းမှဖြစ်စေ၊ ပြည်ပမှဖြစ်စေ ပစ္စည်းများကိုဝယ်ယူရန်၊ ကြီးမားသောဝယ်ယူမှုများ၏ ကုန်ကျစရိတ်များကိုဖြန့်ပစ်ရန်၊ သို့မဟုတ် သေးငယ်သော စီးပွားရေး လုပ်ငန်းတစ်ခုကိုစလုပ်ခွင့်ရရန် သင့်ကိုကူညီပေးပါသည်။ ချေးငွေဖြင့် ဝယ်ယူသောအခါ သင်ငွေပြန်ဆပ်ရမည်ဖြစ်၍ သင့်ထံတွင် အကြွေး ရှိသွားပါသည်။ ချေးငွေထုတ်ပေးမှုအတွက် အခကြေးငွေတစ်ခုဖြစ်သော

အတိုးငွေကြောင့် သင်သုံးစွဲသည်ထက်ပို၍ ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။ ချေးငွေတစ်ရပ်ကို သင်ပြန်လည်ပေးဆပ်ခြင်းမပြုပါက သင့်အနေနှင့် ပျက်ကွက်မှုရှိသွားပါသည်။ ယင်းသို့သောအဖြစ်မျိုးကို မည်သည့်ငွေချေးသူကမှ မလိုလားသောကြောင့် ဘဏ်များအနေဖြင့် ချေးငွေအဆင့် သတ်မှတ်ချက်များကိုအသုံးပြု၍ ငွေမချေးမီ ချေးငွေစစ်ဆေးမှုများကို ပြုလုပ်ပါသည်။

**'ချေးငွေအခက်အခဲ' ဆိုတာဘာလဲ**

ချေးငွေရယူရန် ပိုမိုခက်ခဲသောအချိန်သည် ချေးငွေအခက်အခဲ **(Credit Crunch)** ဖြစ်ပါသည်။ ထိုအချိန်တွင် ဘဏ်များက လူပုဂ္ဂိုလ်များ၊ စီးပွားရေးလုပ်ငန်းများနှင့် ဘဏ်အချင်းချင်းသို့ ငွေထုတ်ချေးလိုသည့်ဆန္ဒ ပို၍နည်းပါသည်။ လူအများက ချေးငွေများကိုပေးဆပ်ရန် ပျက်ကွက်ကြသောအခါ၊ ပေါက်ဈေးနှုန်းများ မတည်မငြိမ်ဖြစ်ကြသောအခါ၊ ငွေချေးခြင်းနှင့်ပတ်သက်၍ အစိုးရကဥပဒေသစ်များကို ပြဋ္ဌာန်းသောအခါ ချေးငွေအခက်အခဲ ဖြစ်နိုင်ပါသည်။

စိုးရိမ်ကြောက်ရွံ့မှုကလည်း ချေးငွေခက်ခဲမှုကို မီးလောင်ရာလေပင့်ပေးပါသည်။ အခြားဘဏ်များတွင် ငွေမရှိတော့မည်ကို ဘဏ်များကကြောက်ရွံ့လျှင် ၎င်းတို့အနေဖြင့် မည်သည့်ချေးငွေကိုမှ ထုတ်ပေးမည်မဟုတ်ပါ။ ၎င်းသည် ဥပါဒါန်ကြောင့်ဥပဒ်ရောက်ခြင်းတစ်မျိုး ဖြစ်ပါသည်။ ချေးငွေအခက်အခဲတစ်ခုရှိသည့်အခါ ဘဏ်များသည် ချေးငွေများအတွက် ပိုမိုတင်းကျပ်သောစည်းမျဉ်းများကို ချမှတ်ကြပါသည်။ သို့ဖြစ်၍ ယခင်က ချေးငွေတွင် အလုံအလောက်ကောင်းခဲ့သော လူများသည် အပေါင်ဖြင့်ဝယ်ရန် ချေးငွေတစ်ခုကိုရတော့မည်မဟုတ်ပါ။

ချေးငွေစရိတ် ပိုမိုများပြားပါသည်။ ဘဏ်များက ၎င်းတို့၏ စွန့်စားမှုကို ထေမိလိုကြသောကြောင့် အတိုးနှုန်းများမြင့်မားပါသည်။ သို့ဖြစ်၍ အပေါင်ဖြင့်ဝယ်ရန် ချေးငွေများသည် ကုန်ကျစရိတ်ကြီးမားပြီး ကြွေးဝယ်ကတ်နှုန်းများလည်း မြင့်တက်သွားပါသည်။ ငွေနှင့်ချေးငွေများ



ရရှိနိုင်မှု ပို၍နည်းသွားသဖြင့် ယုံကြည်မှုကျဆင်းသွားသောကြောင့် စတော့ဈေးကွက်များလည်း ကျဆင်းသွားပါသည်။ ထို့ကြောင့် ရင်းနှီးမြှုပ်နှံမှုနှင့် ပင်စင်များ တန်ဖိုးလျော့နည်းသွားပါသည်။ ချေးငွေသည် ကုန်ကျစရိတ် ပိုများပြီးရရှိရန် ပိုမိုခက်ခဲသောအခါ စီးပွားရေးလုပ်ငန်းများတွင် ရင်းနှီးမြှုပ်နှံမှုနှင့် စားသုံးသူများ၏သုံးစွဲမှုလည်း ကျဆင်းသွားပါသည်။

**၂၀၀၇ ခုနှစ် ချေးငွေအခက်အခဲကို ဘယ်အရာတွေက ဖြစ်ပွားစေခဲ့သလဲ**

အခက်အခဲမတိုင်မီက ချေးငွေများကိုရရှိရန် အလွန်လွယ်ကူခဲ့သဖြင့် လူအများက ၎င်းတို့ပြန်လည်ပေးဆပ်နိုင်ခြင်းမရှိသည့် ချေးငွေများကို ထုတ်ယူခဲ့ကြပါသည်။ အမေရိကန်နိုင်ငံရှိဘဏ်များသည် များသောအားဖြင့် အရည်အချင်းပြည့်ဝမှုမရှိသောလူများကို အပေါင်ချေးငွေများ ထုတ်ပေးခဲ့ပါသည်။ ၎င်းတို့ကို 'ကြွေးဆပ်နိုင်ခြေမရှိသူများကိုပေးသော အပေါင်ချေးငွေ' **(Subprime mortgage)** ဟု ခေါ်ပါသည်။ ကြွေးဆပ်နိုင်ခြေမရှိသူများကိုပေးသောချေးငွေများမှ ပို၍မြင့်သော အတိုးနှုန်းနှင့် စာရင်းဖွင့်ခများရရှိသောကြောင့် ဘဏ်များက ၎င်းချေးငွေများကို ဖန်တီးခဲ့ပါသည်။ ထို့ကြောင့် ၎င်းသည်ဘဏ်များအတွက် ငွေရှာရန်နည်းလမ်းကောင်းတစ်ခု ဖြစ်ခဲ့ပါသည်။

အိမ်ဈေးနှုန်းများကျဆင်းသွားသောအခါ လူအများသည် ၎င်းတို့၏အပေါင်ချေးငွေများကို ပြန်လည်ပေးဆပ်နိုင်ခြင်းမရှိတော့ပါ။ ဘဏ်များသည် ငွေအမြောက်အမြားဆုံးရှုံးခဲ့သဖြင့် ချေးငွေများကို လျှော့၍ချေးပြီး ၎င်းချေးငွေများအပေါ်တွင် အတိုးများကို ပို၍ကောက်ခံခဲ့ပါသည်။ ကြွေးဆပ်ရန်ပျက်ကွက်မှုများသည် ဘဏ်တစ်ခုတည်းကိုသာ ထိခိုက်ခဲ့ခြင်းမဟုတ်ပါ။ ထိုပျက်ကွက်မှုများသည် ဘဏ်နှင့် ကုမ္ပဏီများ၏ ရှုပ်ထွေးသောကွန်ရက်တစ်ခုကို ထိခိုက်ခဲ့ပြီး ထိုမှ တစ်ကမ္ဘာလုံး၏ ချေးငွေအခက်အခဲကြီးအဖြစ်သို့ ပြောင်းလဲသွားခဲ့ပါသည်။ ဘဏ်များက ကြွေးဆပ်နိုင်ခြေမရှိသူများကိုပေးသော အပေါင်ချေးငွေများကို အခြား

ဘဏ်များ၊ အဖွဲ့အစည်းများနှင့် Fannie Mae နှင့် Freddie Mac ကဲ့သို့သောကုမ္ပဏီများသို့ ရောင်းချခဲ့ကြပါသည်။

**'ရင်းနှီးမြှုပ်နှံမှု' ဆိုတာဘာလဲ**

ရင်းနှီးမြှုပ်နှံမှုဆိုသည်မှာ ကုန်ပစ္စည်းများထုတ်လုပ်ရန်အတွက် ပစ္စည်းကိရိယာများ၊ ကျွမ်းကျင်မှုများ၊ သို့မဟုတ် နည်းပညာများကို ဝယ်ယူခြင်း ဖြစ်ပါသည်။ ဤသို့ဝယ်ယူခြင်းသည် အလောင်းအစား တစ်မျိုး ဖြစ်ပါသည်။ အလောင်းအစားကိုအနိုင်ရရှိလျှင် ကုန်ထုတ်စွမ်း အားတိုးတက်ပြီး ကုမ္ပဏီ၏အမြတ်များ တိုးပွားပါလိမ့်မည်။ အလောင်း အစားရှုံးလျှင်မူ ရင်းနှီးမြှုပ်နှံမှုတုံးတုံးမြှုပ်၍ ဆုံးရှုံးသွားနိုင်ပါသည်။ ၎င်းသည် အတိုး၊ သို့မဟုတ် အကျိုးအမြတ်တစ်ခုကိုထုတ်လုပ်ရန် ပိုင်ဆိုင်ပစ္စည်းကို တန်ဖိုးဖြတ်မှုအပေါ်တွင်အားထားသည့် 'အရင်းအနှီး' နှင့် ခြားနား ပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့် စွန့်စားရောင်းဝယ်ခြင်းကြားတွင် သေးငယ် သောစည်းတစ်ခု ရှိပါသည်။ ရင်းနှီးမြှုပ်နှံမှုတွင် ရေရှည်အကျိုးကျေးဇူး များရှိပြီး စွန့်စားရောင်းဝယ်ခြင်းသည် ငွေမြန်မြန်ပေါ်အောင်လုပ်ခြင်း နှင့် ပတ်သက်ပါသည်။ ရင်းနှီးမြှုပ်နှံခြင်းသည် 'Vestis' (အဝတ်အစား) ဟူသော လက်တင်စကားလုံးမှ ဆင်းသက်လာပြီး အခြားသူတစ်ဦး၏ အိတ်ကပ်ထဲတွင် တစ်စုံတစ်ခု (ဥပမာ- ငွေ) ကိုထည့်ထားခြင်းကို ရည်ညွှန်းပါသည်။

အတိုးနှုန်းမြင့်မားခြင်းများသည် များသောအားဖြင့် ရင်းနှီးမြှုပ်နှံ မှုကို နည်းပါးစေပါသည်။ အကြောင်းမှာ ပိုမိုကောင်းမွန်သော ကုန်ထုတ် စွမ်းအားသည် စုဆောင်းငွေများထံမှ ရရှိသောအကျိုးအမြတ်ကို ယှဉ်နိုင် မည်မဟုတ်သောကြောင့် ဖြစ်ပါသည်။ အတိုးနှုန်းနည်းခြင်းသည် များ ပြားသော ရင်းနှီးမြှုပ်နှံမှုများကို ဖြစ်ပေါ်စေပါသည်။ အကြောင်းမှာ ငွေကို ချေးငှား၍ ကုန်ထုတ်စွမ်းအားတိုးတက်မှုတစ်ခုအပေါ်တွင် လောင်းကြေး ထပ်ရန်အတွက် ကုန်ကျစရိတ် ပို၍သက်သာသောကြောင့် ဖြစ်ပါသည်။

**'ဆန်းသစ်တီထွင်မှု' ဆိုတာဘာလဲ**

ဆန်းသစ်တီထွင်မှုဆိုသည်မှာ နည်းပညာ၊ အသိပညာ၊ သို့မဟုတ် အရောင်းမြှင့်တင်ရေးလုပ်ငန်းဖြင့် ကုန်ပစ္စည်းတစ်ခုကို ဖော်ထုတ်ခြင်း ဖြစ်ပါသည်။ ယှဉ်ပြိုင်မှုရှိသောဈေးကွက်တစ်ခုတွင် စွမ်းဆောင်ရည်ကို တိုးမြှင့်ခြင်း၊ သို့မဟုတ် ဈေးနှုန်းတစ်ခုတည်းအပေါ်တွင် ယှဉ်ပြိုင်ခြင်းထက် ဆန်းသစ်တီထွင်မှုက အကျိုးအမြတ်ရရှိနိုင်မှုအပေါ်တွင် ပိုမိုကြီးမားသော သက်ရောက်မှုတစ်ခုရှိနိုင်သည်။

ဆန်းသစ်တီထွင်မှုသည် စီးပွားရေးအထွတ်အထိပ်အများစုကို မောင်းနှင်ပေးပါသည်။ ၁၈၀၀ ပြည့်လွန်နှစ်များက စက်မှုတော်လှန်ရေး၊ ၁၉၀၀ ပြည့်လွန်နှစ်များက စက်ရုံအလုပ်ရုံများနှင့် ၂၀၀၀ ပြည့်လွန်နှစ်များက ဆက်သွယ်ရေးလုပ်ငန်းများကို ဆန်းသစ်တီထွင်မှုက မောင်းနှင်ပေးခဲ့ခြင်း ဖြစ်ပါသည်။ စီးပွားရေးပညာရှင် Joseph Schumpeter က ၁၉၄၀ ပြည့်လွန်နှစ်များက ဆန်းသစ်တီထွင်မှုများ၏ အရေးပါမှုကို မီးမောင်းထိုးပြခဲ့ပြီး ကုမ္ပဏီများအနေဖြင့် ဆန်းသစ်တီထွင်မှုနှင့် ပတ်သက်၍ အခြေအနေကို ကြိုတင်ဖန်တီးပြီး ထိန်းချုပ်ဆောင်ရွက်သင့်ကြောင်း ပြောခဲ့ပါသည်။

**'ပစ္စည်းပိုင်ဆိုင်ခွင့်' ဆိုတာဘာလဲ**

အရင်းအမြစ်တစ်ခုကို မည်သူကပိုင်ဆိုင်သည်၊ ၎င်းကို မည်သို့အသုံးပြုမည်ကို မည်သူကဆုံးဖြတ်မည်၊ ၎င်းကို ငှားရမ်းခြင်း၊ သို့မဟုတ် ရောင်းချခြင်းမှ မည်သူကအကျိုးခံစားရမည်ကို ပစ္စည်းပိုင်ဆိုင်ခွင့် (Property Rights) က အဆုံးအဖြတ်ပေးပါသည်။ ပစ္စည်းပိုင်ဆိုင်ခွင့်သည် အရင်းရှင်စနစ်၏ အဓိကကျသော အစိတ်အပိုင်းတစ်ခု ဖြစ်ပါသည်။ မည်သည့်အရာကို မည်သူကပိုင်ဆိုင်သည်ကို ရှင်းလင်းစွာ သတ်မှတ်ခြင်းဖြင့်သာလျှင် သယ်ယူရန်၊ ဖလှယ်ရန်နှင့် ရောင်းဝယ်ရန် လူအများကို တွန်းအားပေးနိုင်မည်ဖြစ်ပါသည်။

ကွန်မြူနစ်စနစ်မအောင်မြင်ခြင်းသည် ယေဘုယျအားဖြင့်

ပစ္စည်းပိုင်ဆိုင်ခွင့်နှင့် ဆက်စပ်နေပါသည်။ ပုဂ္ဂလိကပိုင်ဆိုင်မှုမရှိဘဲနှင့် လုပ်ငန်းများကို အကျိုးအမြတ်ရှိအောင်လုပ်ရန် မည်သူမျှစိတ်ဓာတ်တက်ကြွမည်မဟုတ်ပါ။ ဂေဟစနစ်အဆင့်အတန်းကျဆင်းခြင်းသည် တစ်ခါတစ်ရံတွင် ပစ္စည်းပိုင်ဆိုင်ခွင့်နှင့် ဆက်စပ်နေပါသည်။ သဘာဝပတ်ဝန်းကျင်ကို မည်သူကပိုင်ဆိုင်သည်ဟူသာ ရှင်းရှင်းလင်းလင်း သတ်မှတ်ပေးထားလျှင် ၎င်းသဘာဝပတ်ဝန်းကျင်သည် ပိုမိုကောင်းမွန်စွာ ကာကွယ်စောင့်ရှောက်ခံရမည် ဖြစ်ပါသည်။ အသိဉာဏ်ပစ္စည်းဆိုင်ရာ အခွင့်အရေးများတွင် လုပ်ငန်းဆိုင်ရာ (တီထွင်မှုများ၊ ဒီဇိုင်းပုံစံများ) နှင့် အနုပညာ (ပန်းချီ၊ ဝတ္ထု၊ တေးဂီတ) ပစ္စည်းများ ပါဝင်ပါသည်။ World Trade Organization (WTO) (ကမ္ဘာ့ကုန်သွယ်ရေးအဖွဲ့ကြီး) သည် Trade-Related Aspects of Intellectual Property Right (TRIPS) (အသိဉာဏ်ပစ္စည်းဆိုင်ရာ အခွင့်အရေး၏ ကုန်သွယ်ရေးနှင့် ဆက်နွယ်နေသော သွင်ပြင်လက္ခဏာများ) နှင့် ပတ်သက်သည့် သဘောတူညီချက်တစ်ခုကို တီထွင်ဖန်တီးခဲ့ပါသည်။

TRIPS သည် ပစ္စည်းပိုင်းဆိုင်ရာ အခွင့်အရေးကို အားကောင်းစေပြီး အစိုးရများကို ၎င်းတို့၏ နယ်ပယ်များအတွင်းတွင် မူပိုင်ခွင့်များ သင့်တင့်လျောက်ပတ်စွာ ပြဋ္ဌာန်းထားခြင်းကို သေချာအောင်လုပ်ရန် အခိုင်အမာ ပြောထားပါသည်။ မူပိုင်ခွင့်များ၏အများစုကို အနောက်နိုင်ငံများက ပိုင်ဆိုင်ကြသောကြောင့် ဤသို့ပိုင်ဆိုင်ခြင်းသည် ဖွံ့ဖြိုးဆဲနိုင်ငံများကို ကြီးမားသောအားနည်းချက် များထဲသို့ ရောက်ရှိစေပါသည်။ ၎င်းကွာဟမှုသည် တစ်နှစ်ပြီးတစ်နှစ် ပိုမိုကျယ်ပြန့်လာနေပါသည်။

# (၂)
# အစိုးရများကလုပ်ဆောင်သောအရာများ

လွတ်လပ်သော ဈေးကွက်စီးပွားရေးဟုဆိုသော စီးပွားရေး တစ်ခုထဲ၌ပင်လျှင် ဈေးကွက်များသည် အမှန်တကယ် အပြည့်အဝ လွတ်လပ်မှုမရှိကြပါ။ အစိုးရများသည် ထွက်ပေါ်လာမည့်ရလဒ်ကို လွှမ်းမိုးရန်အလို့ငှာ ဝင်ရောက်စွက်ဖက်ခြင်းမပြုဘဲ မနေနိုင်ကြပါ။ ကောင်းသော အကြောင်းပြချက်များဖြင့် မကြာခဏ ဝင်ရောက်စွက် ဖက်ကြပါသည်။ ထို့ကြောင့် အစိုးရများက မည်သည့်အရာများကို လုပ်ဆောင်နိုင်ကြ၍ ၎င်းတို့၏မူဝါဒများသည် စီးပွားရေးအပေါ်တွင် မည်သည့်အကျိုးသက်ရောက်မှုများ ရှိနိုင်ကြသနည်း။ သင်သည် ရောင်း လိုအားဘက်မှ ဖြစ်ပါသလား၊ သို့တည်းမဟုတ် ဝယ်လိုအားဘက်မှ ဖြစ်ပါသလား။

**'ဘဏ္ဍာရေးမူဝါဒများ' ဆိုတာဘာလဲ**

ဘဏ္ဍာရေးမူဝါဒ (Fiscal Policies) များသည် အစိုးရ၏ သုံးစွဲမှုနှင့် အခွန်စည်းကြပ်မှုဆိုင်ရာမူဝါဒများကိုလည်းကောင်း၊ ဝင်လာ သည့်အရာများနှင့် ထွက်သွားသည့်အရာများ လိုက်ဖက်ညီခြင်းရှိမရှိ ကိုလည်းကောင်းပေးထားသော ထူးခြားသောအမည် ဖြစ်ပါသည်။ ယေဘုယျအားဖြင့် ဝယ်လိုအားအလုံးစုံကို ပြောင်းလဲလိုသောအခါ

ဖြစ်စေ၊ စီးပွားရေးအတွင်းရှိဝင်ငွေကို ပြန်လည်ခွဲဝေလိုသောအခါဖြစ်စေ ဤမူဝါဒများကို အစိုးရများကအသုံးပြုပါသည်။

ဘဏ္ဍာရေးမူဝါဒများသည် ဘက်မလိုက်ဘဲကြားနေနိုင်ပါသည်။ အကျဉ်းချုံးနိုင်ပါသည်၊ သို့မဟုတ် အကျယ်ချဲ့နိုင်ပါသည်။ မျှတသော ဘတ်ဂျက်တစ်ခုကို ထိန်းထားနိုင်ပါသည်။ လိုငွေများကိုလျှော့ချရန် လျှော့၍သုံးစွဲနိုင်ပါသည်၊ သို့မဟုတ် လုပ်ငန်းဆောင်ရွက်မှုကိုမြှင့်တင်ရန် တိုး၍သုံးစွဲနိုင်ပါသည်။ အကျဉ်းချုံးသောမူဝါဒများသည် အခွန်တိုးမြှင့်ကောက်ခံခြင်း၊ သို့မဟုတ် ဘတ်ဂျက်ဖြတ်တောက်ခြင်းများကို ပြဌာန်းပေးပါသည်။ ယင်းသို့လုပ်ဆောင်ခြင်းသည် လိုငွေများကိုလျှော့ချရုံသာမက ငွေကြေးဖောင်းပွမှုကိုလည်း ထိန်းချုပ်ပေးနိုင်ပါသည်။ အကျယ်ချဲ့သော မူဝါဒများမှာမူ ၎င်းနှင့်ဆန့်ကျင်ဘက်ဖြစ်ပါသည်။ ၎င်းတို့၏ရည်မှန်းချက်သည် ယေဘုယျအားဖြင့် အခွန်များကိုလျှော့ချပေးခြင်းဖြင့်၊ သို့မဟုတ် အစိုးရအသုံးစရိတ်များကို တိုးမြှင့်ပေးခြင်းဖြင့် အလုပ်လက်မဲ့ဖြစ်မှုကို လျှော့ချရန် ဖြစ်ပါသည်။

## 'ငွေကြေးမူဝါဒများ' ဆိုတာဘာလဲ

ငွေကြေးမူဝါဒများ (Monetary Policies) သည် သင်မျှော်လင့်မည့်အရာများကို တိကျစွာ ကိုင်တွယ်ဆောင်ရွက်ပါသည်။ ၎င်းတို့သည် ငွေကြေးလည်ပတ်မှုနှင့် ဘဏ်တိုးနှုန်းကို ထိန်းချုပ်သောမူဝါဒများ ဖြစ်ကြပါသည်။ ၎င်းတို့သည် ဘဏ္ဍာရေးဆိုင်ရာမူဝါဒများနှင့်မတူဘဲ ဗဟိုအစိုးရက လွတ်လပ်စွာ ဖန်တီးလေ့ရှိပါသည်။ နိုင်ငံအများစုတွင် ၎င်းကို ဆုံးဖြတ်သည်မှာ ဗဟိုဘဏ် ဖြစ်ပါသည်။ လည်ပတ်ငွေပမာဏစီမံခန့်ခွဲမှုကို မြင့်မားသောငွေကြေးဖောင်းပွမှုကိုကာကွယ်၍ တည်ငြိမ်သော ရေရှည်ဖွံ့ဖြိုးမှုကိုသေချာစေရန် အရေးအကြီးဆုံးနည်းလမ်းအဖြစ် မြင်ကြပါသည်။

မူဝါဒများသည် အကျဉ်းချုံးခြင်းသော်လည်းကောင်း အကျယ်ချဲ့ခြင်းသော်လည်းကောင်း ဖြစ်နိုင်ပါသည်။ သို့ရာတွင် ရည်မှန်းချက်မှာ

ဘတ်ဂျက်ကို စီမံခန့်ခွဲရန်မဟုတ်ဘဲ ငွေကြေးဖောင်းပွမှုကို ထိန်းချုပ်ရန် ဖြစ်ပါသည်။ အကျဉ်းချုံးသောမူဝါဒများသည် လည်ပတ်ငွေပမာဏကို လျှော့ချ၍ ဝယ်လိုအားကိုလျှော့ချခြင်းဖြင့် ငွေကြေးဖောင်းပွမှုကို လျှော့ချရန် ရည်ရွယ်ပါသည်။

အကျယ်ချဲ့သောမူဝါဒများသည် အကျဉ်းချုံးသောမူဝါဒများ၏ ဆန့်ကျင်ဘက်ကိုလုပ်ဆောင်ခြင်းဖြင့် စီးပွားရေးလုပ်ငန်းကို မြှင့်တင်ရန် ရည်ရွယ်ပါသည်။ သို့ရာတွင် ငွေကြေးဖောင်းပွမှုကို မြင့်တက်စေမည့် အန္တရာယ် ရှိပါသည်။ သို့ရာတွင် ကုန်ကျစရိတ်ကို မည်သို့ထိန်းချုပ်ပါသနည်း။ လွယ်ကူရိုးစင်းပါသည်။ ဗဟိုဘဏ်၏အတိုးနှုန်း မြင့်တက်မှုတစ်ခုသည် ဘဏ်များ၊ စီးပွားရေးလုပ်ငန်းများနှင့် သင့်အတွက် ငွေချေးယူမှုကုန်ကျစရိတ်ကို မြင့်တက်စေပါသည်။ ဘဏ္ဍာရေးမူဝါဒများထက် ငွေကြေးမူဝါဒများကို ဦးစားပေးရန် Milton Friedman က အစိုးရများကို ထောက်ခံအားပေးခဲ့ခြင်းကို လူသိများခဲ့ပါသည်။ ဤရပ်တည်ချက်ကို 'Monetarism' (ငွေကြေးထိန်းချုပ်ရေးဝါဒ) ဟု သိထားကြပါသည်။

**'အတိုးနှုန်း' ဆိုတာဘာလဲ**

အတိုးနှုန်းများသည် ငွေချေးယူမှုအတွက် စျေးနှုန်းဖြစ်သကဲ့သို့ သင်၏ငွေကို ဘဏ်တွင်သိမ်းဆည်းထားသည့်အတွက် သင်ရရှိသော အကျိုးအမြတ်လည်း ဖြစ်ပါသည်။ ချေးငွေများကို အတိုးငွေများနှင့် ပေါင်း၍ ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။ ငွေစုဘဏ်စာရင်းတစ်ခုဖြင့်ငွေအပ်ခြင်းဖြင့် ဘဏ်တစ်ခုသို့သင်ကငွေ 'ထုတ်ချေး' လျှင် ၎င်းငွေကို တိုးလာရန် သင်ကမျှော်လင့်ပါသည်။ ကူးသန်းရောင်းဝယ်ရေးဘဏ်များက ၎င်းတို့၏ ကိုယ်ပိုင်နှုန်းများကို အပြိုင်အဆိုင်သတ်မှတ်ကြသော်လည်း ၎င်းနှုန်းများကို အဆုံးအဖြတ်ပေးသောနှုန်းဖြစ်သည့် လျှော့ငွေနှုန်းခေါ် 'ဗဟိုဘဏ်အတိုးနှုန်း' ကို ဗဟိုဘဏ်များက ဆုံးဖြတ်ပါသည်။

ဤလျှော့ငွေနှုန်းသည် အခြေခံအားဖြင့် အတိုးနှုန်း၏ နောက်ထပ်အမည်တစ်ခုဖြစ်ပြီး ၎င်းကို မူဝါဒအရ ဦးစားပေးသတ်မှတ်ချက်များနှင့်လည်းကောင်း၊ စီးပွားရေး၏လိုအပ်ချက်များနှင့်လည်းကောင်း ကိုက်ညီအောင် သတ်မှတ်ပေးပါသည်။ အတိုးနှုန်းသည် အဓိကကျသော မူဝါဒလက်နက်တစ်ခု ဖြစ်ပါသည်။ အတိုးနှုန်းများကိုမြှင့်တင်ခြင်း၊ ချပေးခြင်းဖြင့် စီးပွားရေးတစ်ခုလုံးအတွင်းရှိ ချေးငှားခြင်းနှင့် သုံးစွဲခြင်းများကို အစိုးရက လွှမ်းမိုးနိုင်ပါသည်။

ကြေညာထားသောနှုန်းကို အမည်ခံနှုန်းဟု ခေါ်ပါသည်။ ၎င်းထက် ပို၍အရေးကြီးသည်မှာ 'အမှန်' နှုန်း ဖြစ်ပါသည်။ အလွယ်တကူပြောရလျှင် အမည်ခံနှုန်းကို ငွေကြေးဖောင်းပွမှုအတွက် ညှိထားသောနှုန်းသည် အမှန်နှုန်း ဖြစ်ပါသည်။

**'ဗဟိုဘဏ်' ဆိုတာဘာလဲ**

ဗဟိုဘဏ် (Central Bank) များတွင် အမျိုးအစားများပြားသော ကျယ်ပြန့်သည့်လုပ်ငန်းတာဝန်များ၊ အစိုးရနှင့်လည်းကောင်း ဈေးကွက်နှင့်လည်းကောင်း ဆက်သွယ်နေသည့် ကွင်းဆက်များရှိနေသည့်အတွက် ဗဟိုဘဏ်များကို စီးပွားရေး၏ဦးနှောက်များအဖြစ် ယူဆနိုင်ပါသည်။ ဗဟိုဘဏ်များ၏ အရေးကြီးသောဥပမာများမှာ အမေရိကန်ဗဟိုဘဏ်၊ အင်္ဂလန်ဘဏ်နှင့် မကြာသေးမီက တည်ထောင်ခဲ့သော ဥရောပဗဟိုဘဏ်တို့ဖြစ်ပါသည်။

ငွေကို ၎င်းတို့ကသာလျှင် ပုံနှိပ်နိုင်ပါသည်။ ဤသို့ သတ်မှတ်ထားခြင်းက ငွေကြေးဖောင်းပွမှုနှင့် ရင်းနှီးမြှုပ်နှံမှုအထိ အရာအားလုံးကိုလွှမ်းမိုးနေသော လည်ပတ်ငွေပမာဏ၏ ထိန်းချုပ်မှုကင်းမဲ့သော တိုးချဲ့မှုကို ကာကွယ်ပေးပါသည်။ ၎င်းတို့သည် လည်ပတ်ငွေပမာဏကို ထိန်းချုပ်ရုံသာမက အစိုးရနှင့် နိုင်ငံတော်ဘဏ်များကိုလည်း ချေးငွေများထုတ်ပေးပြီး အချို့ကိစ္စများတွင် စည်းမျဉ်းစည်းကမ်းများကို ပြဋ္ဌာန်းပေးပါသည်။

အမေရိကန်ဗဟိုဘဏ်သည် ၎င်း၏တာဝန်များကို “ငွေကြေးမူဝါဒ၊ ဘဏ်လုပ်ငန်းကို ကြီးကြပ်ကွပ်ကဲခြင်းနှင့် စည်းကမ်းထိန်းသိမ်းခြင်း၊ တည်ငြိမ်မှုကိုထိန်းသိမ်းခြင်း၊ ငွေကြေးဝန်ဆောင်မှုပေးခြင်း” များအဖြစ် ဖော်ထားပါသည်။ ဗဟိုဘဏ်တစ်ခုကို နိုင်ငံတော်ဘဏ်တစ်ခုနှင့် ရောထွေး၍မရပါ။ နိုင်ငံတော်ဘဏ်သည် တစ်ခုလုံးကို နိုင်ငံတော်က ပိုင်ဆိုင်နိုင်သည့် အဖွဲ့အစည်းတစ်ခုသော်လည်းကောင်း ပုဂ္ဂလိကကူးသန်းရောင်းဝယ်ရေး လုပ်ငန်းတစ်ခုသော်လည်းကောင်း ဖြစ်နိုင်ပါသည်။

**‘ဘဏ္ဍာရေးစည်းမျဉ်း’ ဆိုတာဘာလဲ**

ဘဏ္ဍာရေးစည်းမျဉ်းများ (Financial Regulations) က ဘဏ်များကို မလျော့မကန်မပြုမူရန် တားမြစ်ထားပါသည်။ ၎င်းစည်းမျဉ်းများတွင် ငွေကြေးအဖွဲ့အစည်းများက လိုက်နာစောင့်ထိန်းရမည့် နည်းဥပဒေများ၊ ကန့်သတ်ချက်များ၊ လမ်းညွှန်ချက်များပါဝင်ပါသည်။ ၎င်းတို့သည် ယေဘုယျအားဖြင့် The U.S. Securities and Exchange Comission (SEC) (အမေရိကန်ရင်းနှီးမြှုပ်နှံမှုစာချုပ်စာတမ်း ရောင်းဝယ်ရေးကော်မရှင်) နှင့် The U.K. Financial Services Authority (FSA) (ဗြိတိန်ငွေကြေးဝန်ဆောင်မှုအာဏာပိုင်အဖွဲ့) များကဲ့သို့ လွတ်လပ်သောအေဂျင်စီများ ဖြစ်ကြပါသည်။

“၎င်း၏တာဝန်သည် ရင်းနှီးမြှုပ်နှံသူများကို ကာကွယ်စောင့်ရှောက်ရန်၊ မျှတ၍ စနစ်ကျပြီး ထိရောက်မှုရှိသောဈေးကွက်များကို ထိန်းသိမ်းထားရန်နှင့် မတည်ရင်းနှီးငွေဆိုင်ရာ သတင်းအချက်အလက်များကို လွယ်ကူချောမွေ့စေရန်ဖြစ်သည်” ဟု SEC က ဆိုပါသည်။

စည်းမျဉ်းစည်းကမ်း ထိန်းသိမ်းခြင်းနှင့် လွတ်လပ်သောဈေးကွက်များကို ခွင့်ပြုခြင်းကြားတွင် ဟန်ချက်ညီမှုတစ်ခုကို ထိန်းသိမ်းထားရန် လိုအပ်ချက်ကို စည်းမျဉ်းစည်းကမ်း ထိန်းသိမ်းသူများက အလေးထားပါသည်။ ၎င်းဟန်ချက်ညီမှုသည် မကြာခဏ အခက်အခဲရှိတတ်ပါသည်။

လွန်ခဲ့သည့် ဆယ်စုနှစ်အနည်းငယ်အတွင်းက ဤပြန်ချက်ညီမှုသည် ထိန်းချုပ်ကန့်သတ်မှုမှ လျှော့ပေးခြင်း၊ သို့မဟုတ် စည်းမျဉ်းစည်းကမ်းပြန်လည်ထိန်းသိမ်းခြင်းဆီသို့ ပြောင်းလဲသွားခဲ့ပြီး ယင်းသို့ဆောင်ရွက်ခြင်းသည် တင်းကျပ်မှု ပို၍နည်းသော ငွေကြေးဈေးကွက်များကို ဖန်တီးပေးခဲ့ပါသည်။ တင်းကျပ်မှုပို၍နည်းသော ဤပတ်ဝန်းကျင်သည် ငွေကြေးကဏ္ဍမှစတင်၍ ကုန်ပစ္စည်းနှင့်ဝန်ဆောင်မှုများကို ထုတ်လုပ်ရောင်းဝယ်သော စီးပွားရေးကဏ္ဍဆီသို့ ပျံ့နှံ့သွားသော ၂၀၀၇ ခုနှစ်အကျပ်အတည်းအတွက် အပြစ်တင်ခြင်းကို ခံခဲ့ရပါသည်။

**'အခွန်စည်းကြပ်ခြင်း' ဆိုတာဘာလဲ**

အခွန်စည်းကြပ်ခြင်း (Taxation) သည် သင်၊ ကျွန်ုပ်နှင့် ၎င်းတို့၏နယ်ပယ်များအတွင်း လုပ်ကိုင်နေသည့် စီးပွားရေးလုပ်ငန်းများထံမှ ၎င်းတို့အတွက် ဝင်ငွေကိုကောက်ခံသည့် အစိုးရများ၏နည်းလမ်းတစ်ခု ဖြစ်ပါသည်။ အခွန်စည်းကြပ်ခြင်းပုံစံများတွင် ဝင်ငွေခွန်၊ လူတစ်ဦးချင်းအတွက် လူမှုဖူလုံရေးကြေးများ၊ စီးပွားရေးလုပ်ငန်းများအတွက် ပြည်နယ်နှင့် ဗဟိုအစိုးရကော်ပိုရိတ်အခွန်များ ပါဝင်ပါသည်။

အခွန်စည်းကြပ်ခြင်းဖြင့် ပြောင်းလဲပြင်ဆင်ခွဲဝေခြင်းကိုလည်း လုပ်ကိုင်နိုင်ပါသည်။ ဇိမ်ခံပစ္စည်းများ၊ သို့မဟုတ် ပိုမိုမြင့်မားသောဝင်ငွေများအပေါ်တွင် တိုးမြှင့်စည်းကြပ်သောအခွန်များသည် ဤအကျိုးကျေးဇူးကို ပေးနိုင်ပါသည်။ ၎င်းနှင့်ဆန့်ကျင်ဘက်အားဖြင့် လျှော့နှုန်းဖြင့် အခွန်စည်းကြပ်ခြင်းသည်လည်း ဝင်ငွေနည်းသူများအပေါ်ရှိ အခွန်ဝန်ထုပ်ဝန်ပိုးကို တိုးမြှင့်စေခြင်းဖြင့် ပြောင်းလဲဖြန့်ဝေခြင်းကို လုပ်ကိုင်နိုင်ပါသည်။

အမေရိကန်လွတ်လပ်ရေးလှုပ်ရှားမှုသည် ၎င်း၏ မကျေနပ်ချက်များကို စိတ်ဝင်စားအောင်ဆွဲဆောင်ရန်အတွက် "ကိုယ်စားပြုမှုမရှိဘဲ အခွန်စည်းကြပ်ခြင်းမရှိစေရ" ဟူသော စကားရပ်ကို အသုံးပြုခဲ့ပါသည်။



ဤစကားရပ်သည် အခွန်စည်းကြပ်ခြင်းနှင့် ဒီမိုကရေစီကြားမှ ဆက်သွယ်မှုကို မီးမောင်းထိုးပြနေပါသည်။ အစိုးရသည် အခွန်ဘဏ္ဍာ လိုအပ်ပါသည်။ သို့သော် ၎င်းအခွန်ဘဏ္ဍာများကို မည်သို့သုံးစွဲရမည်ဟု ပြောရန် အခွန်စည်းကြပ်ခံရသူများတွင် အခွင့်အရေးရှိပါသည်။

**'ပုဂ္ဂလိကလက်သို့လွှဲပြောင်းခြင်း' ဆိုတာဘာလဲ**

မီးရထားလုပ်ငန်း၊ လေကြောင်းလုပ်ငန်း၊ သို့မဟုတ် စာတိုက်လုပ်ငန်းကဲ့သို့သော အစိုးရပိုင် ပိုင်ဆိုင်ပစ္စည်းများကို ပုဂ္ဂလိကလက်သို့ လွှဲပြောင်းပေးသောအခါ ပုဂ္ဂလိကလက်သို့လွှဲပြောင်းခြင်း (Privatization) ဖြစ်လာပါသည်။

၁၉၈၀ ပြည့်လွန်နှစ်များက အမေရိကန်မှ Ronald Reagan နှင့် ဗြိတိန်မှ Margaret Thatcher တို့သည် ပုဂ္ဂလိကလက်သို့ လွှဲပြောင်းသောမူဝါဒများကို လက်ကိုင်ပြုခဲ့ကြပါသည်။ ပုဂ္ဂလိကလက်သို့ လွှဲပြောင်းခြင်းကို ထောက်ခံသောသူများက ယင်းသို့လွှဲပြောင်းခြင်းသည် ဝန်ထုပ်ဝန်ပိုးဖြစ်နေသော ဗျူရိုကရေစီစနစ်နှင့် အကျင့်ပျက်ခြစားမည့်အလားအလာကို လျော့နည်းစေသည်ဟု အခိုင်အမာဆိုကြပါသည်။

အစိုးရပိုင်လုပ်ငန်းများသည် ဈေးကွက်ထက် နိုင်ငံရေးသမားတို့၏ ဦးစားပေးသတ်မှတ်ချက်များအပေါ်တွင် အာရုံစူးစိုက်ခြင်းအားဖြင့် စီးပွားရေးတိုးတက်မှုကို နှေးကွေးစေသည်ဟု ထောက်ခံသူများက ထောက်ပြကြပါသည်။ ပုဂ္ဂလိကလက်သို့လွှဲပြောင်းခြင်းကို ဆန့်ကျင်သူများကမူ ယင်းသို့လွှဲပြောင်းခြင်းသည် အများပိုင်လုပ်ငန်းများက ၎င်းတို့ကို အသုံးပြုသူများဖြစ်သည့် ပြည်သူလူထုအပေါ် တာဝန်ခံမှု ပို၍နည်းသွားစေသည်ဟု အခိုင်အမာဆိုကြပါသည်။

ပုဂ္ဂလိကလက်သို့လွှဲပြောင်းခြင်းသည် အစိုးရပိုင်ပစ္စည်းများကို နိုင်ငံရေးမဟာမိတ်များထံသို့ လွှဲပြောင်းပေးမှုကိုလည်း ပေါ်ပေါက်စေပါသည်။ ၎င်းသည် ခြေရာခံရန်ခက်ခဲသော အကျင့်ပျက်ခြစားမှု ဖြစ်ပါသည်။

**'ဝယ်လိုအားကိုဇောင်းပေးသောမူဝါဒ' ဆိုတာဘာလဲ**

ဝယ်လိုအားကိုဇောင်းပေးသောမူဝါဒ (Demand-side Policy) များသည် စီးပွားရေးတစ်ခုအတွင်းရှိ ဝယ်လိုအား အားလုံးအပေါ်တွင် သက်ရောက်မှုရှိရန် အသုံးပြုသော လက်နက်ကိရိယာများ ဖြစ်ပါသည်။ ၎င်းတို့သည် ကျွန်ုပ်တို့၏ သုံးစွဲနိုင်စွမ်းကို တိုးတက်ခြင်း၊ သို့မဟုတ် ဆုတ်ယုတ်ခြင်းများ ဖြစ်စေပါသည်။ ငွေကြေးမူဝါဒနှင့် ဘဏ္ဍာရေးမူဝါဒ နှစ်မျိုးစလုံးသည် ဝယ်လိုအားကို လွှမ်းမိုးနိုင်ပါသည်။ အတိုးနှုန်းများကို လျှော့ချပေးခြင်းသည် အစိုးရ၏သုံးစွဲမှုကို တိုးပွားစေသကဲ့သို့ ဝယ်လိုအားကို မြှင့်တင်ပေးနိုင်ပါသည်။

ပို၍နည်းသောအတိုးနှုန်းများသည် စီးပွားရေးလုပ်ငန်းများကို ငွေချေးယူရန် အားပေးပါသည်။ ၎င်းတို့သည် အများပြည်သူအတွက် အပေါင်၊ သို့မဟုတ် အခြားကြွေးမြီများ၏ ကုန်ကျစရိတ်ကိုလည်း လျှော့နည်းစေပါသည်။ အစိုးရ၏သုံးစွဲမှုသည် ဝယ်လိုအားကို ဇောင်းပေးသော၊ အရေးပါသော လက်နက်ကိရိယာတစ်ခုဖြစ်ပါသည်။ ဤမူဝါဒများသည် များသောအားဖြင့် အလုပ်လက်မဲ့လျှော့ချရေးကို ရည်မှန်းပါသည်။

ပိုမိုများပြားသော အလုပ်အကိုင်များက ပိုမိုများပြားသော ဝယ်လိုအားကို ဖန်တီးပေးပြီး ၎င်းက တစ်ဖန် ပိုမိုများပြားသည့်ထုတ်လုပ်မှုကို အားပေးသည့်အတွက် တိုးပွားလာသော အလုပ်အကိုင်များသည် ကောင်းမွန်သော တိုးတက်မှုစက်ဝန်းကိုဖန်တီးပေးပါသည်။ သို့ရာတွင် ဤသို့ဖြစ်ခြင်းသည် ယေဘုယျအားဖြင့် ခက်ခဲသော အပေးအယူလုပ်မှု တစ်ခုကိုလုပ်ရမည် ဖြစ်ပါသည်။ ဝယ်လိုအား၏ ကြီးထွားမှုက ရောင်းလိုအားအတွက် မြန်လွန်းနေလျှင် မြင့်မားသော ငွေကြေးဖောင်းပွမှုတစ်ခုကို အစပျိုးပေးမည့်အန္တရာယ် ရှိပါသည်။

**'ရောင်းလိုအားကိုဇောင်းပေးသောမူဝါဒ' ဆိုတာဘာလဲ**

ရောင်းလိုအားကိုဇောင်းပေးသောမူဝါဒ (Supply-side Policy) များသည် စီးပွားရေးတစ်ခု၏ စုစုပေါင်းကုန်ထုတ်လုပ်မှုစွမ်းအားကို

တိုးတက်စေပါသည်။ ၎င်းတို့သည် လူပုဂ္ဂိုလ်များနှင့် စီးပွားရေးလုပ်ငန်းများကို ပိုမိုကြိုးစား၍ အလုပ်လုပ်ကိုင်ရန် မက်လုံးများပေးပါသည်။ ဤမူဝါဒများသည် စီးပွားရေးတွင် အစိုးရ၏ ပြင်းထန်သော ဝင်ရောက်စွက်ဖက်မှုကိုဆန့်ကျင်သော မူဝါဒချမှတ်သူများနှင့် ဆက်နွယ်နေပါသည်။ ၎င်းတို့သည် ပို၍နည်းသည်ကို ပိုကောင်းသည်ဟု ယူဆကြသောသူများဖြစ်ပါသည်။

ကန့်သတ်ထိန်းချုပ်မှုမှ ကင်းလွတ်စေခြင်း၊ အခွန်အကောက်နှင့် အစိုးရ၏သုံးစွဲမှုကို လျှော့ချခြင်းများသည် ရောင်းလိုအားကိုဖောင်းပေးသော အရေးအကြီးဆုံး လက်နက်ကိရိယာများဖြစ်ကြပြီး ၎င်းမူဝါဒတစ်ခုစီသည် သတ်မှတ်ထားသော စီးပွားရေးကဏ္ဍများကို ပစ်မှတ်ထားပါသည်။ မည်သို့ပင်ဆိုစေ ကန့်သတ်ထိန်းချုပ်မှုမှ ကင်းလွတ်စေခြင်းသည် လုပ်ငန်းများကြားရှိ ယှဉ်ပြိုင်မှုကိုလည်းကောင်း၊ ဈေးကွက်၏ ပြောင်းလွယ်ပြင်လွယ်ရှိမှုကိုလည်းကောင်း မြှင့်တင်ပေးပါသည်။

ပြောင်းလွယ်ပြင်လွယ်ရှိမှုသည် အဓိကအားဖြင့် အလုပ်သမားဈေးကွက်နှင့် ဆက်နွယ်နေပါသည်။ ပိုမိုများပြားသော ယှဉ်ပြိုင်မှုများက လူတစ်ဦးချင်းသည် ၎င်းတို့၏အလုပ်များတွင် ထုတ်လုပ်နိုင်စွမ်း ပို၍များလိမ့်မည်ဟု ဆိုလိုပါသည်။ ဝင်ငွေခွန်လျှော့ချခြင်းနှင့် လူမှုဖူလုံရေးအတွက် အစိုးရ၏သုံးစွဲမှုသည် လူအများကို အလုပ်ပိုမိုကြိုးစားလုပ်ကိုင်ရန်အားပေးသည်ဟုလည်း အခိုင်အမာဆိုကြပါသည်။

ဝင်ငွေခွန်များပို၍နည်းခြင်းသည် လုပ်ခလစာပို၍များသော (ထုတ်လုပ်နိုင်စွမ်းပို၍များသော) အလုပ်များအတွက် ရရှိမည့်ဆုလာဘ်များ ပို၍များပြီး လူမှုဖူလုံရေး ပို၍နည်းခြင်းက အလုပ်မလုပ်ခြင်းကို ကုန်ကျစရိတ် ပို၍ကြီးလေးစေသည်ဟု ဆိုလိုပါသည်။

## 'Reaganomics' ဆိုတာဘာလဲ

Reaganomics (ရေဂင်စီးပွားရေးမူဝါဒ) ဆိုသည်မှာ ၁၉၈၀ ပြည့်လွန်နှစ်များအတွင်း သမ္မတရော်နယ်ရေဂင်အစိုးရ၏ ရောင်းလိုအား

ဆိုင်ရာစီးပွားရေးမူဝါဒများကို စုစည်း၍ပေးထားသောအမည် ဖြစ်ပါသည်။ ၎င်းမူဝါဒသည် ငွေကြေးဖောင်းပွမှုနှင့် စီးပွားရေးရပ်တန့်နေမှုကို ပိုမို သေးငယ်အောင်ချုံ့ထားသော အစိုးရဖြင့်လည်းကောင်း၊ ပုဂ္ဂလိက လုပ်ငန်းအတွက် ကူညီပံ့ပိုးမှုဖြင့်လည်းကောင်း တုံ့ပြန်၍ တိုးတက်မှုကို မြှင့်တင်ရန် ကြိုးစားခဲ့ပါသည်။

စစ်ပြီးကာလ Keynes ၏ စီးပွားရေးမူဝါဒအပေါ် တိုက်ခိုက်မှု တစ်ခုအနေဖြင့် ဤမူဝါဒ၏ အဓိကရည်မှန်းချက်များမှာ အစိုးရ၏သုံးစွဲမှု၊ ဝင်ငွေခွန်၊ စည်းကမ်းထိန်းသိမ်းမှုနှင့် ငွေကြေးဖောင်းပွမှုများကို လျှော့ချ ရန်ဖြစ်ပါသည်။ **"အစိုးရ၏ကြီးထွားမှုကို လျှော့ချခြင်းဖြင့်သာလျှင် စီးပွား ရေး၏ကြီးထွားမှုကို တိုးတက်အောင် ကျွန်ုပ်တို့လုပ်နိုင်သည်"** ဟု ရေဂင်ကပြောခဲ့သည့်စကားမှာ ကျော်ကြားခဲ့ပါသည်။

ရေဂင်စီးပွားရေးမူဝါဒအရ ဝင်ငွေခွန်များကို လျှော့ချခဲ့ပါသည်။ အမြင့်ဆုံးနှုန်းသည် ၇၀ ရာခိုင်နှုန်းမှ ၂၈ ရာခိုင်နှုန်းအထိ ကျဆင်းခဲ့ သော်လည်း သုံးစွဲမှုကိုမူ ဖြတ်တောက်ခြင်းမရှိခဲ့ပါ။ ကာကွယ်ရေးအသုံး စရိတ်များတွင် တိုးတက်မှုများသည် အမေရိကန်အစိုးရကြွေးမြီများ၊ ဘတ်ဂျက်နှင့် ကုန်သွယ်ရေးလိုငွေများတွင် သိသိသာသာ မြင့်တက်မှု များကို ဖြစ်ပေါ်စေခဲ့ပြီး ၎င်းတို့သည် ယခုထက်တိုင် ပပျောက်သွားခြင်း မရှိသေးပါ။

## **'အစိုးရနှင့် ပုဂ္ဂလိကအစီအစဉ်' ဆိုတာဘာလဲ**

အစိုးရနှင့် ပုဂ္ဂလိကအစီအစဉ် (Public-Private Initiative) ဆိုသည်မှာ များသောအားဖြင့် အများပြည်သူအတွက် ဝန်ဆောင်မှု တစ်မျိုးကိုပေးသော အစိုးရနှင့် ပုဂ္ဂလိကလုပ်ငန်းတို့၏ အစုစပ်လုပ်ငန်း တစ်ခု ဖြစ်ပါသည်။ ကိစ္စများစွာတွင် လမ်း၊ ရေ၊ စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုနှင့် အကျဉ်းထောင်များစသည့် အများပြည်သူအတွက် ဝန်ဆောင်မှုများကို ယခုအခါ ပုဂ္ဂလိကလုပ်ငန်းများသို့ ကန်ထရိုက်ပေးထားကြပါသည်။ ကာကွယ်ရေးဌာနသည်ပင်လျှင် ပုဂ္ဂလိကကဏ္ဍကို ပို၍ပို၍ အသုံးပြုလာ

နေပြီး အိုးအိမ်ကဲ့သို့ အထောက်အကူပြုလုပ်ငန်းများကို ပြင်ပကန်ထရိုက်လုပ်ငန်းများကို ချပေးနေပါသည်။

အစိုးရအနေဖြင့် အခွန်ထမ်းအတွက် ကုန်ကျစရိတ်များကို လျှော့ချပေးနိုင်ပါသည်။ စီမံကိန်းအတွက် ဘဏ္ဍာငွေအများစုကို ပုဂ္ဂလိကလုပ်ငန်းက စုဆောင်းပေးရမည်ဖြစ်ပါသည်။ အစိုးရ၏ ထောက်ပံ့ငွေ၊ အခွန်ဖြတ်တောက်မှုများနှင့် ဝင်ငွေကိုအာမခံပေးခြင်းများသည် ယင်းကဲ့သို့သော အစီအစဉ်တစ်ခုထဲသို့ဝင်ရန်အတွက် စီးပွားရေးလုပ်ငန်းကို အားကောင်းသော မက်လုံးများပေးပါသည်။ ကမ္ဘာ့ကျန်းမာရေးအဖွဲ့ကြီးနှင့် ဆေးဝါးလုပ်ငန်းတို့၏ ပူးပေါင်းဆောင်ရွက်မှုက အပြည်ပြည်ဆိုင်ရာအဆင့်တွင် ပူးပေါင်းဆောင်ရွက်ခြင်း၏အရေးပါမှုကို ပြနေပါသည်။

**'သတ်မှတ်ချက်ဖြင့် ရောင်းဝယ်ရေးအစီအစဉ်' ဆိုတာဘာလဲ**

သတ်မှတ်ချက်ဖြင့် ရောင်းဝယ်ရေးအစီအစဉ် (Cap-and-Trade Scheme) ဆိုသည်မှာ ညစ်ညမ်းမှုကိုလျှော့ချရန် အစိုးရနှင့် ဈေးကွက်အခြေပြုမှုကို ပေါင်းစပ်ထားသော နည်းလမ်းတစ်ခု ဖြစ်ပါသည်။ သင်သည် ညစ်ညမ်းမှုအတွက် အဖိုးအခပေးရမည် ဖြစ်ပါသည်။ ဤအစီအစဉ်ကို "ညစ်ညမ်းအောင်လုပ်သူများက သတ်မှတ်ချက်ကို လိုက်နာပုံလိုက်နာနည်းအတွက် ပြောင်းလွယ်ပြင်လွယ်ရှိမှုကိုပေးသော ပတ်ဝန်းကျင်မူဝါဒဆိုင်ရာ လက်နက်ကိရိယာတစ်ခု" အဖြစ် ပတ်ဝန်းကျင်စောင့်ရှောက်ရေးအဖွဲ့က ဖော်ပြပါသည်။ ဤအစီအစဉ်များထဲမှ အကြီးဆုံးအစီအစဉ်သည် ဥရောပသမဂ္ဂထုတ်လွှတ်မှုများ ဖလှယ်ရေးအစီအစဉ်ဖြစ်ပြီး ၎င်းအစီအစဉ်ထဲတွင် စက်ရုံအလုပ်ရုံပေါင်း ၁၀,၀၀၀ ကျော်၏ ထုတ်လွှတ်မှုများ အကျုံးဝင်နေပါသည်။ အမြင့်ဆုံးသတ်မှတ်ချက်သည် ညစ်ညမ်းမှုအပေါ်တွင် ပြဋ္ဌာန်းထားသော ကန့်သတ်မှုတစ်ခု ဖြစ်ပါသည်။ ၎င်းကန့်သတ်ချက်ကို များသောအားဖြင့် အစိုးရအေဂျင်စီတစ်ခုက သတ်မှတ်ပေးပြီး စီးပွားရေးလုပ်ငန်းများအတွက် ထုတ်လွှတ်မှုဆိုင်ရာ ခွင့်ပြုချက်တစ်ခုကို ထိုအေဂျင်စီက ထုတ်ပြန်ပေးပါသည်။

ရောင်းဝယ်မှုသည် သတ်မှတ်ထားသောခွင့်ပြုချက်ထက် တိုး၍လျှော့၍ ထုတ်လွှတ်ကြသော လုပ်ငန်းများက ဤခွင့်ပြုချက်များကို ပြန်လည်ဝယ်ယူခြင်းနှင့် ရောင်းချခြင်း ဖြစ်ပါသည်။ မည်သို့ပင်ဖြစ်စေ ပိုမို၍ထုတ်လွှတ်သူများထံမှ အခကြေးငွေကောက်ခံခြင်းဖြင့် ဤအစီအစဉ်သည် ညစ်ညမ်းမှုကိုလျှော့ချသော စီးပွားရေးမက်လုံးများကို ပေးပါသည်။

(၃)

## ယူဆချက်ကြီးများ

အထက်တွင်ဖော်ပြခဲ့သော မူဝါဒများအားလုံးသည် မည်သည့် အရာကို ဆိုလိုသနည်း။ စီးပွားရေးပညာတွင် မည်သည်တို့သည် အဓိက ကျသော တွေးခေါ်ပုံနည်းလမ်းများ ဖြစ်ကြသနည်း။ ဤယူဆချက် များကို သင်၏ ပေါင်းစပ်ပုံပေါင်းစပ်နည်းအပေါ် တွင် မူတည်၍ သင့်ကို လစ်ဘရယ်တစ်ဦး၊ သို့မဟုတ် လစ်ဘရယ်လက်သစ်တစ်ဦး၊ သို့မဟုတ် Keynes ဝါဒီတစ်ဦး၊ သို့မဟုတ် Marx ဝါဒီတစ်ဦးအဖြစ်ပင်လျှင် ယူဆ နိုင်ဖွယ်ရှိပါသည်။ မည်သည့်စီးပွားရေးပညာအမျိုးအစားကို သင်ယုံကြည် ထားသည်ကို သိရခြင်းသည် အကျိုးရှိပါသည်။

### 'လစ်ဘရယ်ဝါဒ' ဆိုတာဘာလဲ

လစ်ဘရယ်ဝါဒ (Liberalism) ဆိုသည်မှာ စီးပွားရေးကို စီစဉ် ရန်အတွက် လွတ်လပ်သောဈေးကွက်သည် အကောင်းဆုံးနည်းလမ်း ဖြစ်သည်ဟု ဖွင့်ဆိုသော စီးပွားရေးအတွေးအခေါ် တစ်ခု ဖြစ်ပါသည်။ နိုင်ငံတော်သည် စီးပွားရေးတွင် ဝင်ရောက်စွက်ဖက်ရန်မသင့်ဟု လစ်ဘရယ်ဝါဒီများက ယူဆကြပါသည်။ 'The night-watchman state' (ဒရဝမ်နိုင်ငံတော်) ဟူသော ဝေါဟာရကို ၎င်းတို့က တီထွင်ခဲ့ပါသည်။ နိုင်ငံတော်၏ တစ်ခုတည်းသော စီးပွားရေးဆိုင်ရာအခန်းကဏ္ဍမှာ

ဈေးကွက်က လွတ်လပ်စွာအလုပ်လုပ်ခြင်းနှင့် ပုဂ္ဂလိကပိုင်ပစ္စည်းကို ထိပါးမှုမရှိခြင်းကို သေချာအောင်လုပ်ရန်သာ ဖြစ်ပါသည်။

လွတ်လပ်သောဈေးကွက်သည် အရင်းအမြစ်များကို အထိရောက်ဆုံးနည်းလမ်းဖြင့် ခွဲဝေပေးသောကြောင့် အကောင်းဆုံးသောရလဒ်ကို ပေးပါလိမ့်မည်။ ဤကဲ့သို့ဖြစ်ပွားခြင်းမှာ ရောင်းလိုအားနှင့် ဝယ်လိုအားဥပဒေသကြောင့်ဖြစ်ပြီး ၎င်းဥပဒေသသည် လွတ်လပ်သောဈေးကွက်တစ်ခုတွင် ပိုလျှံခြင်းသော်လည်းကောင်း ပြတ်လပ်ခြင်းသော်လည်းကောင်းမရှိအောင် ဈေးကွက်များကို ရှင်းထုတ်ပစ်ပါသည်။

ဈေးကွက်ကိုပုံပျက်အောင် မည်သူကမျှမလုပ်ဘဲ ဖြစ်ပျက်နေသောအရာအားလုံးကိုလည်း လူတိုင်းကသိနေကြလျှင် ဈေးကွက်သည် ဟန်ချက်ညီသောအခြေအနေတွင် အခြေကျနေမည်ဖြစ်သည်။ တစ်စုံတစ်ရာမှားယွင်းခဲ့လျှင် ဈေးကွက်သည် ပြဿနာကို ၎င်းဘာသာဖြေရှင်းသွားမည်ဖြစ်ပါသည်။ အစိုးရက ဝင်ရောက်စွက်ဖက်ခြင်း မပြုသင့်ပါ။ ယင်းသို့စွက်ဖက်ခြင်းသည် အရာရာကို ပိုမိုဆိုးဝါးသွားစေမည်သာဖြစ်ပါသည်။

**'လစ်ဘရယ်လက်သစ်ဝါဒ' ဆိုတာဘာလဲ**

လစ်ဘရယ်လက်သစ်ဝါဒ (Neo-Liberalism) ဆိုသည်မှာ လစ်ဘရယ်ဝါဒက ဖြစ်ပေါ်စေခဲ့သော စီးပွားရေးအတွေးအခေါ် တစ်ခုဖြစ်ပါသည်။ ၎င်းသည် ၁၉၇၀ ပြည့်လွန်နှစ်များ၏ နောက်ပိုင်းတွင် Keynes ဝါဒကို အစားထိုးခဲ့သောမူဝါဒများကို ရည်ညွှန်းပါသည်။ အစိုးရတစ်ခုက မှန်အောင်လုပ်သင့်သော အရေးအကြီးဆုံးအရာတစ်ခုမှာ အလုပ်အကိုင်အပြည့်အဝရရှိရေးမဟုတ်ဘဲ ငွေကြေးဖောင်းပွမှုကို နည်းအောင် ထိန်းပေးရေးသာဖြစ်သည်ဟု လစ်ဘရယ်လက်သစ်များက ယူဆကြပါသည်။

လစ်ဘရယ်များကဲ့သို့ပင် နိုင်ငံတော်သည် စီးပွားရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုသင့်ဟု လစ်ဘရယ်လက်သစ်များက ယူဆ

ကြပါသည်။ ထိုကဲ့သို့ဝင်ရောက်စွက်ဖက်ခြင်းသည် ရှုပ်ထွေးမှုတစ်ခုကို အမြဲဖြစ်စေပါသည်။ ထို့ကြောင့် အမေရိကန်ဗဟိုဘဏ်ကဲ့သို့ ဗဟိုဘဏ်များသည် အစိုးရထံမှလွတ်လပ်မှုရှိသင့်သည်ဟု လစ်ဘရယ်လက်သစ်များက ယုံကြည်ကြပါသည်။

အလုပ်လက်မဲ့ဖြစ်မှု မြင့်တက်မလာစေရန်အတွက် ဘဏ်တိုးနှုန်းများလျှော့ချရန် ဗဟိုဘဏ်မှပုဂ္ဂိုလ်များကို နိုင်ငံရေးသမားများက ပြောဆိုနေခြင်းကို သင့်အနေဖြင့် အလိုမရှိပါ။ အလုပ်လက်မဲ့ဖြစ်မှု ရှိပါသည်။ မှန်ပါသည်။ ၎င်းသည် အလုပ်သမားသမဂ္ဂ၏အမှား ဖြစ်ပါသည်။ ၎င်းတို့က အလုပ်သမားဈေးကွက်ကို ပုံစံပျက်စေသောကြောင့် ဖြစ်ပါသည်။ ထိုသို့မလုပ်လျှင် အလုပ်သမားဈေးကွက်သည် ၎င်းဆောင်ရွက်မြဲအတိုင်း ၎င်းကိုယ်၎င်း ထိန်းကျောင်းသွားမည်သာ ဖြစ်ပါသည်။

အတိုးနှုန်းများကို လျှော့ချခြင်းဖြင့် အလုပ်လက်မဲ့ဖြစ်မှုကို လျှော့ချရန် သင်ကြိုးစားပါက ငွေကြေးဖောင်းပွမှုကို ရရှိမည်ဖြစ်ပြီး ၎င်းသည် သင့်တွင် နောက်ဆုံးမှလိုအပ်သောအရာ ဖြစ်ပါသည်။ လစ်ဘရယ်လက်သစ်များ အကြိုက်ဆုံးအရာသုံးခုမှာ ပုဂ္ဂလိပိုင်အဖြစ်သို့ ပြောင်းလဲခြင်း၊ စည်းမျဉ်းစည်းကမ်းများ လျှော့ပေါ့ပေးခြင်းနှင့် အလုပ်သမားဈေးကွက်၏ ပြောင်းလွယ်ပြင်လွယ်ရှိခြင်းတို့ပင် ဖြစ်ပါသည်။

## 'ငွေကြေးထိန်းချုပ်ရေးဝါဒ' ဆိုတာဘာလဲ

ငွေကြေးထိန်းချုပ်ရေးဝါဒ (Monetarism) သည် အမည်က ဆိုထားသည့်အတိုင်း ငွေကြေးဆိုင်ရာမူဝါဒအပေါ်တွင် အာရုံစိုက်ထားသောနည်းလမ်းတစ်ခု ဖြစ်ပါသည်။ လည်ပတ်နေသောငွေကြေးပမာဏကို ထိန်းချုပ်ခြင်းသည် တည်ငြိမ်သောစီးပွားရေးတစ်ခုအတွက် ပဓာနကျပါသည်။ စီးပွားရေးတစ်ခုထဲရှိ ငွေကြေးပမာဏသည် ကာလတိုစားသုံးမှု၊ စီးပွားရေးလုပ်ငန်းနှင့် လူအများ၏ ရင်းနှီးမြှုပ်နှံမှုဆိုင်ရာဆုံးဖြတ်ချက်များအပေါ်တွင် ထိခိုက်မှုရှိပါသည်။ ပို၍များသောငွေကြေးသည် ပို၍များသော လုပ်ဆောင်မှုနှင့်ညီမျှပါသည်။

ဤယူဆချက်ကို အမှန်တကယ်တီထွင်ခြင်းသည် ရေရှည် အတွက် ဖြစ်ပါသည်။ ထိရောက်မှုရှိသောငွေကြေး မူဝါဒအပေါ်တွင် အာရုံစိုက်ခြင်းဖြင့် အစိုးရသည် ဈေးနှုန်းများကို တည်ငြိမ်အောင် ထိန်းထားနိုင်ပါသည်။ ဈေးနှုန်းများကို တည်ငြိမ်အောင်ထိန်းထားခြင်းဖြင့် စီးပွားရေးသည် မြင့်မားသော ငွေကြေးဖောင်းပွမှုနှုန်းကို ကြုံတွေ့ရမည် မဟုတ်ဘဲ ထွက်ကုန်နှင့် စားသုံးမှုသည် တည်ငြိမ်သောနှုန်းဖြင့် ကြီးထွား လာပါလိမ့်မည်။

ထိန်းချုပ်ထား၍ တည်ငြိမ်သော ငွေကြေးလည်ပတ်မှုပမာဏ တိုးပွားမှုသည် စီးပွားရေးလုပ်ဆောင်မှုကို တိုးချဲ့ပေးစဉ်မှာပင် ငွေကြေး ဖောင်းပွမှုကို နည်းအောင်ထိန်းထားပါလိမ့်မည်။ ဤရေရှည်အကျိုး ကျေးဇူးများသည် ရောင်းလိုအားထက် ဝယ်လိုအားကို ပို၍ လျာထားခြင်း မှဖြစ်ပေါ်လာသော မည်သည့်ရေတိုအကျိုးအမြတ်များထက်မဆို ပို၍ ကောင်းသည်ဟု ငွေကြေးထိန်းချုပ်ရေးဝါဒီများက ဆိုကြပါသည်။

## 'နှိုင်းရအားသာချက်' ဆိုတာဘာလဲ

နှိုင်းရအားသာချက် (Comparative Advantage) ကို ၁၈၁၇ ခုနှစ်တွင် ပထမဆုံးဖော်ထုတ်ခဲ့သော်လည်း ယနေ့ထက်တိုင် သြဇာ အရှိဆုံး အပြည်ပြည်ဆိုင်ရာကုန်သွယ်ရေးသီအိုရီတစ်ခုအဖြစ် ရှိနေဆဲ ဖြစ်ပါသည်။ ဤသီအိုရီအရ နိုင်ငံတစ်နိုင်ငံတွင်ရှိနိုင်သော မည်သည့် အကြွင်းမဲ့အားသာချက်များဖြင့် ကုန်သွယ်မှုမှအကျိုးအမြတ်များကို မတွက်ချက်ရန် ဖြစ်ပါသည်။

ထိုသို့တွက်မည့်အစား အရေးကြီးသောအရာမှာ နှိုင်းရအားသာ ချက် ဖြစ်ပါသည်။ ဆိုလိုသည်မှာ နိုင်ငံတစ်နိုင်ငံအတွင်းရှိ နှိုင်းယှဉ် ရရှိသော ထုတ်လုပ်မှုတန်ဖိုးများကို ကျွန်ုပ်တို့စဉ်းစားရန်လိုအပ်သည် ဟူ၍ ဖြစ်ပါသည်။ အမေရိကန်နိုင်ငံသည် မော်တော်ကားနှင့် ကွန်ပျူတာ နှစ်မျိုးစလုံးကို ပြင်သစ်နိုင်ငံထက် ပို၍ဈေးသက်သာစွာ ထုတ်လုပ်နိုင်သည့် တိုင် နှိုင်းယှဉ်ချက်အရ အကုန်အကျ ပို၍သက်သာသောအရာကိုသာ

ထုတ်လုပ်ရန် ရွေးချယ်ခြင်းသည် အကောင်းဆုံးဖြစ်ပါသည်။ အမေရိကန်နိုင်ငံက ကွန်ပျူတာများကို ပိုလျှံအောင်ထုတ်လုပ်ပြီး ၎င်းကွန်ပျူတာများကို ပြင်သစ်ကားများနှင့် ကုန်သွယ်ဖလှယ်ပါက စုစုပေါင်းကုန်ထွက်နှင့် စားသုံးမှုကို တိုးပွားစေပါလိမ့်မည်။

နိုင်ငံတိုင်းက နှိုင်းရအားသာချက်ကို လက်ကိုင်ထား၍ တစ်စုံတစ်ခုကို အထူးဆောင်ရွက်ခြင်းဖြင့် နိုင်ငံအားလုံးသည် အပြည်ပြည်ဆိုင်ရာကုန်သွယ်ရေးမှ အကျိုးကျေးဇူးများကို ခံစားရနိုင်ပါသည်။

## 'ပြောင်းလဲဖြန့်ဝေခြင်း' ဆိုတာဘာလဲ

ပြောင်းလဲဖြန့်ဝေခြင်း (Redistribution) ဆိုသည်မှာ လူအုပ်စုတစ်စုထံမှဝင်ငွေကို အခြားအုပ်စုတစ်စုထံသို့ ပြောင်းလဲပေးရန် စီးပွားရေးတွင် အစိုးရကဝင်ရောက်စွက်ဖက်ခြင်း ဖြစ်ပါသည်။ ပြောင်းလဲဖြန့်ဝေခြင်းသည် ချမ်းသာသောသူများအစား ဆင်းရဲသောသူများကို အကျိုးရှိစေသည့် 'ခေတ်သစ်ရော်ဘင်ဟု' တစ်မျိုးဖြစ်သည်ဟု လူအများစုကယုံကြည်ကြပါသည်။

ထို့ကြောင့် ပြောင်းလဲဖြန့်ဝေခြင်းသည် အခွန်တိုး၍ စည်းကြပ်ခြင်းနှင့် ဆက်နွယ်နေပါသည်။ ဆင်းရဲသောသူများကိုပေးရန် ချမ်းသာသောသူများကို အခွန်ကောက်ခံခြင်း ဖြစ်ပါသည်။ အကောင်းဆုံးဥပမာသည် ဝင်ငွေခွန် ဖြစ်ပါသည်။ ချမ်းသာသောသူများသည် မြင့်မားသောအခွန်များကို ဆောင်ကြရပြီး ၎င်းငွေများကို လူမှုဖူလုံရေးအကျိုးခံစားခွင့်များအဖြစ် ဆင်းရဲသောသူများကို ထုတ်ပေးပါသည်။ ကော်ပိုရေးရှင်းအခွန်သည် ပြောင်းလဲဖြန့်ဝေခြင်း၏ နောက်ထပ်ဥပမာတစ်ခု ဖြစ်ပါသည်။ အစိုးရသည် လူမှုဖူလုံရေးအစီအစဉ်များကို ရန်ပုံငွေထောက်ပံ့ရန်အတွက် ကော်ပိုရိတ်အကျိုးအမြတ်များအပေါ်တွင် အခွန်စည်းကြပ်ပါသည်။ ပြောင်းလဲဖြန့်ဝေခြင်းသည် ဤစနစ်ကို မမျှတမှု ပို၍နည်းအောင်လုပ်ပေးကြောင်း ပြောင်းလဲဖြန့်ဝေခြင်းကို ထောက်ခံသူများက ဆိုကြပါသည်။ အရင်းရှင်စနစ်ကို ပြုပြင်ပြောင်းလဲရန်လိုအပ်ပါသည်။

**'လူမှုရေးဒီမိုကရေစီ' ဆိုတာဘာလဲ**

လူမှုရေးဒီမိုကရေစီ (Social Democracy) သည် ဆိုရှယ်လစ်ဝါဒနှင့် လွတ်လပ်သော ဈေးကွက်အရင်းရှင်စနစ်ကြား အလယ်အလတ်ရပ်တည်ချက်တစ်ခုကိုပေးသော နိုင်ငံရေးနှင့် စီးပွားရေးယူဆချက်တစ်ခုဖြစ်ပါသည်။ လူမှုရေးဒီမိုကရေစီ၏ ရည်မှန်းချက်များမှာ အရင်းရှင်စနစ်ကို ပိုမိုကောင်းမွန်စေရန်၊ ပိုမိုတရားမျှတမှုရှိစေရန်နှင့် ပိုမိုသာတူညီမျှစေရန် ဖြစ်ပါသည်။ တော်လှန်ရေးမဟုတ်ဘဲ ပြုပြင်ပြောင်းလဲရေးသာ ဖြစ်ပါသည်။

စီးပွားရေးဆိုင်ရာ သတ်မှတ်ချက်များအရ လူမှုရေးဒီမိုကရေစီသည် ဥရောပတစ်ဝှမ်း လူမှုဖူလုံရေးအခြေအနေ ပေါ်ထွက်လာမှုနှင့်လည်းကောင်း၊ အမေရိကန်နိုင်ငံရှိ လူမှုဖူလုံရေးအစီအစဉ်များနှင့်လည်းကောင်း ဆက်နွယ်နေပါသည်။ လူမှုရေးဒီမိုကရေစီစနစ်တစ်ခုတွင် ဆိုရှယ်လစ်စနစ်နှင့်မတူဘဲ ကုန်ထုတ်လုပ်မှု၏ ပုဂ္ဂလိကပိုင်ဆိုင်မှုသည် စောဒကတက်ခြင်းမခံရဘဲ ကျန်ရှိနေပါသည်။ ဦးစားပေးကိစ္စများမှာ စည်းကမ်းထိန်းသိမ်းခြင်းနှင့် အလုပ်သမားအခွင့်အရေးများ ဖြစ်ပါသည်။ ဆင်းရဲသားများကိုပေးရန်အတွက် ချမ်းသာသောသူများထံမှယူသော တိုးတက်သည့် အခွန်စည်းကြပ်မှုသည် လူထု၏လူမှုဖူလုံရေးကို မြှင့်တင်ပေးရန် အစိုးရ၏ ဝင်ငွေအရင်းအမြစ်ကို ပေးပါသည်။

လူမှုရေးဒီမိုကရေစီသည် နိုင်ငံတော်ကို လုပ်ပိုင်ခွင့်ပေးလွန်းသည်ဟု လက်ယာဝေဖန်ရေးသမားများက အခိုင်အမာ ဆိုကြပါသည်။ လက်ဝဲဝေဖန်ရေးသမားများကမူ ပြုပြင်ပြောင်းလဲရေးသည် လုံလောက်မှုမရှိဟု စောဒကတက်ကြပါသည်။

**'ကိန်းစ်၏ စီးပွားရေးမူဝါဒ' ဆိုတာဘာလဲ**

ကိန်းစ်၏ စီးပွားရေးမူဝါဒ (Keynesianism) သည် John Maynard Keynes ၏ ယူဆချက်များအပေါ်တွင် အခြေခံသော စီးပွားရေးသီအိုရီတစ်ခုဖြစ်ပြီး ၎င်းယူဆချက်များသည် ၁၉၃၀ ပြည့်

လွှန်နှစ်များက စီးပွားရေးအကျပ်အတည်းကြီးကို တုံ့ပြန်၍ ပေါ်ထွက်လာခဲ့ခြင်း ဖြစ်ပါသည်။

အကျပ်အတည်းကာလများတွင် ဈေးကွက်သည် ဟန်ချက်ညီသောအခြေအနေနှင့် ပြန်လည်နာလန်ထူမှုဆီသို့ အလိုအလျောက်ပြန်ရောက်မည်ဟူသော အယူအဆကို ကိန်းစ်က ထင်ရှားစွာ စိန်ခေါ်ခဲ့ပါသည်။ ချဲ့ထွင်ရေးမူဝါဒများသည် အားသစ်လောင်းသော တိုးတက်မှုကို သေချာအောင်လုပ်ရန် လိုအပ်ပါသည်။ အစိုးရများက ဝယ်လိုအားကိုနှိုးဆွပေးရန် လိုအပ်ပါသည်။

ရင်းနှီးမြှုပ်နှံမှုတိုးတက်ရန်အတွက် စီးပွားရေး ရုတ်ခြည်းနာလန်ထူစေသော အစီအမံတစ်ခုကိုအားပေးရန် ကိန်းစ်က ထောက်ခံအားပေးသော အဓိကမူဝါဒဆိုင်ရာ လက်နက်ကိရိယာမှာ လိုငွေပမာဏကြီးမားစွာဖြင့်သုံးစွဲခြင်း ဖြစ်ပါသည်။ ကိန်းစ်၏စီးပွားရေးမူဝါဒသည် စစ်ပြီးကာလအတွင်း ၁၉၇၀ ပြည့်လွှန်နှစ်များက ဖြစ်ပေါ်ခဲ့သောအကျပ်အတည်းမတိုင်မီအထိ ဩဇာအကြီးမားဆုံး စီးပွားရေးသီအိုရီတစ်ခုဖြစ်နေခဲ့ပါသည်။

၂၀၀၇-၀၉ ဖြစ်ရပ်များသည် အကျပ်အတည်းကို တိုက်ဖျက်ရန်အတွက် မူဝါဒချမှတ်သူများက ချဲ့ထွင်ရေးမူဝါဒများဆီသို့ ပို၍ပို၍လှည့်လာခြင်းနှင့်အတူ ကိန်းစ်၏စီးပွားရေးမူဝါဒကို ပြန်လည်ရှင်သန်လာစေခဲ့ပါသည်။

## **'မာ့က်စ်ဝါဒ' ဆိုတာဘာလဲ**

သင်က ကြိုက်သည်ဖြစ်စေ မကြိုက်သည်ဖြစ်စေ မာ့က်စ်ဝါဒ (Marxism) သည် ပြီးခဲ့သည့်ရာစုနှစ်အတွင်း၊ သို့မဟုတ် ထို့ထက်ပို၍ကြာရှည်သောကာအတွင်း ကမ္ဘာ့ဩဇာအရှိဆုံး အတွေးအခေါ် သဘောတရားတစ်ခု ဖြစ်ခဲ့ပါသည်။ မာ့က်စ်ဝါဒသည် ၎င်း၏နိုင်ငံရေးရှုထောင့်များအပြင် စီးပွားရေးပညာအပေါ် ခေတ်ရေစီးကြောင်းအမြင်နှင့် အလွန်ခြားနားသော နားလည်မှုတစ်ခုကို ပေးထားပါသည်။

ကုန်ပစ္စည်းတိုင်းတွင် အသုံးတန်ဖိုးနှင့် ဖလှယ်တန်ဖိုး ဟူ၍ ရှိသည်ဟု မာ့က်စ်က ဆိုခဲ့ပါသည်။ အရာရာတိုင်းတွင် ရည်ရွယ်ချက်တစ်ခုရှိပြီး အရာရာတိုင်းတွင် ကုန်ကျစရိတ်တစ်ခု ရှိပါသည်။ လုပ်အားသည်လည်း ကုန်ပစ္စည်းတစ်မျိုးဖြစ်ပြီး အရင်းရှင်စနစ်၏ တိုးတက်မှုအတွက် အဓိကကျသည့်အရာမှာ ဤအရာပင်ဖြစ်သည်ဟု မာ့က်စ်က ဆိုပါသည်။ လုပ်အား၏အသုံးချတန်ဖိုးသည် အခြားကုန်ပစ္စည်းများကို ထုတ်လုပ်ရန်စွမ်းရည် ဖြစ်ပါသည်။ ဖလှယ်တန်ဖိုးသည် မျှတသော ဈေးနှုန်း၊ သို့မဟုတ် အလုပ်ရှင်ကပေးသော လုပ်ခပင် ဖြစ်ပါသည်။

သို့ရာတွင် ဤအသုံးချတန်ဖိုးကို အလုပ်ရှင်၏ စက်များနှင့် ပေါင်းစပ်လိုက်သောအခါ ဤမျှတသောဈေးနှုန်းကို ကျော်လွန်သွားသည့် အပိုတန်ဖိုးတစ်ခု ပေါ်ထွက်လာပါသည်။ ဤအပိုတန်ဖိုးသည် အရင်းရှင်စနစ်ကြီးထွားနိုင်သော အမြတ်အစွန်းဖြစ်ပြီး ၎င်းတို့ကိုထုတ်ယူခြင်းသည် 'ခေါင်းပုံဖြတ်မှု' ဟု မာ့က်စ်က ရည်ညွှန်းသောအရာ ဖြစ်ပါသည်။ ဤခေါင်းပုံဖြတ်မှုကို ချဲ့ထွင်ခြင်းသည် ပဋိပက္ခများကို ဖြစ်ပေါ်စေခဲ့ပြီး ၎င်းပဋိပက္ခများသည် နောက်ဆုံးတွင် အရင်းရှင်စနစ်အား ဖြုတ်ချခြင်းကို ဖြစ်ပေါ်စေခဲ့ပါသည်။

## 'အဖွဲ့အစည်းဝါဒ' ဆိုတာဘာလဲ

အဖွဲ့အစည်းဝါဒ (Institutionalism) က အဓိကအလေးထားသည့်အရာသည် (ကျွန်ုပ်တို့ ယူဆကောင်း ယူဆမည့်အတိုင်း) အဖွဲ့အစည်းများနှင့် ပတ်သက်ပါသည်။ ၎င်းအဖွဲ့အစည်းများသည် စီးပွားရေးလုပ်ငန်းကို ထည့်သွင်းမြှုပ်နှံထားသောဘောင်များ ဖြစ်ပါသည်။

ပထမဆုံး အဖွဲ့အစည်းဆိုင်ရာ စီးပွားရေးပညာရှင်များက ကျမ်းရိုးဘောဂဗေဒလက်သစ်၏ ဈေးကွက်၏ ယေဘုယျသဘောတရားများ၊ သို့မဟုတ် ဈေးကွက်အပြုအမူနှင့် ပတ်သက်၍ အလေးထားသောအရာကို ငြင်းပယ်ခဲ့ကြပါသည်။ စီးပွားရေးတစ်ခုကို ၎င်း၏ သမိုင်းကြောင်းဆိုင်ရာနှင့် ယဉ်ကျေးမှုဆိုင်ရာ တိကျသေချာမှုကိုပေးရန်

အတွက် စီးပွားရေးအဖွဲ့အစည်းများသည် သမိုင်းကြောင်းကိုဖြတ်သန်း၍ အဆင့်ဆင့်ပြောင်းလဲဖြစ်ပေါ်ခဲ့သည်ဟု ၎င်းတို့က ဆိုကြပါသည်။

ဥပမာအားဖြင့် ထင်ရှားသောဗဟိုဘဏ်စနစ်ကို အမေရိကန်သမိုင်းက ပုံဖော်ပေးခဲ့ပြီး နိုင်ငံ၏စီးပွားရေးကိုလည်း ၎င်းက တက်ကြွစွာ ပုံဖော်ပေးခဲ့ပါသည်။ New Institutional Economics (NIE) (အဖွဲ့အစည်းဆိုင်ရာဘောဂဗေဒသစ်) သည် အဖွဲ့အစည်းများနှင့်လည်း အဓိကအားဖြင့် သက်ဆိုင်ပါသည်။ သို့ရာတွင် အာရုံစိုက်မှုမှာမူ အလွန်ကွာခြားပါသည်။

ဤစီးပွားရေးပညာရှင်များသည် ကျမ်းရိုးလက်သစ်မူဘောင်ကိုလက်ခံကြသည့်အတွက် ဈေးကွက်၏သဘာဝအလျောက် လုပ်ဆောင်သွားခြင်းကို အဖွဲ့စည်းများက ထောက်ခံကြသည်ဟု ဆိုပါသည်။

**'မှီခိုမှုသီအိုရီ' ဆိုတာဘာလဲ**

ဖွံ့ဖြိုးရေးအတွက် အခွင့်အလမ်းများကို ပိတ်ဆို့ထားသည့်အရာမှာ ဆင်းရဲသောနိုင်ငံများနှင့် ချမ်းသာသောနိုင်ငံများကြားရှိ ဆက်ဆံရေးများပင်ဖြစ်သည်ဟု မှီခိုမှုသီအိုရီ (Dependency Theory) က ဆိုပါသည်။ လက်တင်အမေရိကရှိလူများက စက်မှုလုပ်ငန်းများ ထူထောင်မှုမရှိခြင်းကို နားလည်ရန်ကြိုးစားခဲ့ကြသောကြောင့် ၁၉၅၀ ပြည့်လွန်နှင့် ၁၉၆၀ ပြည့်လွန်နှစ်များအတွင်း ဤသီအိုရီသည် ထိုဒေသတွင် ထင်ရှားလာခဲ့ပါသည်။

ချမ်းသာသောနိုင်ငံများက ရာစုနှစ်များနှင့်ချီ၍ ခေါင်းပုံဖြတ်ခဲ့ခြင်းသည် မှီခိုရသည့်အခြေအနေထဲသို့ရောက်အောင် ဖွံ့ဖြိုးဆဲနိုင်ငံများကို အတင်းအကျပ်ပို့ဆောင်ခဲ့သည်ဟု ဆိုပါသည်။ ထုတ်လုပ်မှုနှင့် ဖလှယ်မှု၏သဘာဝက အမြတ်အစွန်းမှန်သမျှအားလုံးကို အဓိကကျသော ချမ်းသာသည့်နိုင်ငံများနှင့် ၎င်းတို့၏ကော်ပိုရေးရှင်းကြီးများက ရယူကြလိမ့်မည်ဟု အဓိပ္ပာယ်ထွက်နေပါသည်။ ဆင်းရဲသောနိုင်ငံများသည် အပြည်ပြည်ဆိုင်ရာစီးပွားရေးထဲသို့ ဈေးသက်သာသော

လုပ်အားနှင့် ကုန်ကြမ်းများကို ပေးသွင်းသူများအဖြစ် ထည့်သွင်းခြင်း ခံထားခဲ့ရပါသည်။

ကမ္ဘာလုံးဆိုင်ရာစနစ်ကြီးအတွင်းတွင် ဤနိုင်ငံများ၏ အရေးမပါသောအဆင့်အတန်းသည် ထပ်တလဲလဲ ဆင်းရဲမွဲတေမှုနှင့် တန်းတူမညီမျှမှုကို ဖြစ်ပေါ်စေခဲ့ပါသည်။ ဤခေါင်းပုံဖြတ်စနစ်ကြီးအတွင်း အခြေခံကျသောပြောင်းလဲမှုကသာလျှင် သွင်းကုန်အပေါ် စည်းကြပ်သည့် အခွန်မှစ၍ လူမှုတော်လှန်ရေးအထိ အရာအားလုံးပါဝင်သော ဖွံ့ဖြိုးတိုးတက်မှုကို ဖော်ဆောင်နိုင်ပါသည်။

## **'နယ်ချဲ့စနစ်' ဆိုတာဘာလဲ**

နယ်ချဲ့စနစ် (**Imperialism**) နှင့်ပတ်သက်၍ ပထမဆုံးစဉ်းစားမိမည့်အရာများမှာ စစ်အင်အားဖြင့် ဖန်တီးခဲ့သည့် ကြီးမားကျယ်ပြန့်သော အင်ပါယာကြီးများ ဖြစ်ပါသည်။ ရောမအင်ပါယာ၊ အော်တိုမန်အင်ပါယာနှင့် ဗြိတိသျှအင်ပါယာများသည် ယနေ့အထိ အမှန်တကယ်ပြိုင်ဘက်မရှိသေးပါ။ နယ်ချဲ့စနစ်သည် အရေးပါသော သဘောတရားတစ်ခုဖြစ်နေဆဲ ဖြစ်ပါသည်။ ဤသမားရိုးကျအင်ပါယာကြီးများအစား သမားရိုးကျမဟုတ်သော အင်ပါယာကြီးများကို အပြည်ပြည်ဆိုင်ရာ အရင်းရှင်စနစ်၏ စီးပွားရေးဆက်ဆံမှုများက ဖန်တီးခဲ့သည်ဟု အခိုင်အမာ ဆိုထားပါသည်။

နိုင်ငံစုံကော်ပိုရေးရှင်းကြီးများနှင့် ကမ္ဘာလုံးဆိုင်ရာဘဏ္ဍာရေးသည် စစ်တိုက်ရန်မလိုအပ်ဘဲ ပြည်ပပိုင်ဆိုင်ပစ္စည်းများအပေါ် ထိန်းချုပ်မှုကို အသုံးချခြင်းအားဖြင့် တန်ခိုးဩဇာပုံစံသစ်တစ်ခုကို ပေးပါသည်။ ဤနယ်ချဲ့စနစ်အတွက် စစ်အင်အားအစား ဈေးကွက်အင်အားသည် အဓိကကျနေပါသည်။ သို့ရာတွင် အင်အားသုံးမှု လုံးဝမပါရှိခြင်း ဟူ၍ မည်သည့်အခါမျှမရှိခဲ့ပါ။ "နယ်ချဲ့စနစ်သည် ၎င်းကိုယ်၎င်း အားနည်းသည်ဟု ယူဆသောအခါ ကြီးမားကြမ်းကြုတ်သော အင်အားကိုအသုံးပြုသည်" ဟု ဗင်နီဇွဲလားသမ္မတ Hugo Chavez ပြောခဲ့ပါသည်။

**'ဆိုရှယ်လစ်စနစ်' ဆိုတာဘာလဲ**

ဆိုရှယ်လစ်စနစ် (Socialism) သည် အရင်းရှင်စနစ်အစားအခြား လူသိအများဆုံးရွေးချယ်စရာတစ်ခုကို ပေးကောင်းပေးမည့် စီးပွားရေးအဖွဲ့အစည်းနှင့် ကုန်ထုတ်လုပ်မှုဆိုင်ရာ သီအိုရီတစ်ခု ဖြစ်ပါသည်။ ပုဂ္ဂလိကပိုင်ပစ္စည်းနှင့် ခေါင်းပုံဖြတ်ခြင်းကို ဖျက်သိမ်းခြင်းသည် အလုပ်အကိုင်နှင့် ချမ်းသာကြွယ်ဝမှုကို ဖြန့်ဝေရာ၌ ပို၍မျှတသော ဖြန့်ဝေခြင်းတစ်ခုကို ဖြစ်ပေါ်စေလိမ့်မည်ဟု ဆိုရှယ်လစ်ဝါဒီများက ဆိုကြပါသည်။

"လူတိုင်းစွမ်းအားရှိသလောက်အလုပ်လုပ်၊ လိုအပ်သလောက်ခံစား" ဆိုသည်မှာ ဤအမြင်ကိုအမိအရ ဆွဲဆောင်ရန်အတွက် Karl Marx အသုံးပြုခဲ့သော နာမည်ကျော်ဆောင်ပုဒ် ဖြစ်ပါသည်။ သမားရိုးကျမဟုတ်သော ဤစနစ်ကိုအကောင်အထည်ဖော်ရန် ဆိုဗီယက်ယူနီယံနှင့် ကမ္ဘာတစ်ဝှမ်းရှိ အခြား ကွန်မြူနစ်နိုင်ငံများက နှစ်ဆယ်ရာစုနှစ်တစ်ခုလုံး ကြိုးစားခဲ့ပါသည်။

Marx ၏ သီအိုရီကလှုံ့ဆော်ပေးသည့် ဤနိုင်ငံများသည် အရင်းရှင်စနစ်၏ မညီမျှမှုများကိုကိုင်တွယ်ရန် ဗဟိုမှချုပ်ကိုင်သော စီမံကိန်းများနှင့် နိုင်ငံတော်၏ပိုင်ဆိုင်မှုကို အဓိကလက်နက်ကိရိယာများအဖြစ် အသုံးပြုခဲ့ကြပါသည်။ သို့ရာတွင် ရလဒ်အဖြစ် ထွက်ပေါ်လာသောအာဏာကို ဗဟိုမှချုပ်ကိုင်ခြင်းကြောင့် ဆိုရှယ်လစ်စနစ်၏ အခြေခံသဘောတရားများ အားနည်းသွားပြီး လူအချို့က ဤသီအိုရီကို အယုံအကြည် ကင်းမဲ့သွားခဲ့ပါသည်။

**'တေလာစနစ်' ဆိုတာဘာလဲ**

တေလာစနစ် (Taylorism)၊ သို့မဟုတ် သိပ္ပံနည်းကျစီမံခန့်ခွဲမှုသည် အလုပ်သမားများ၏ ကုန်ထုတ်လုပ်နိုင်စွမ်းအားကို အကောင်းဆုံးအသုံးချရန် အလုပ်ကိုစီစဉ်သည့် နည်းလမ်းတစ်ခု ဖြစ်ပါသည်။ ၎င်းစနစ်ကို ရှေ့ဆောင်လမ်းပြသူ Frederick Taylor ကို အစွဲပြု၍ အမည်ပေးထားသော ဤသီအိုရီက လုပ်ငန်းလုပ်ကိုင်သော လုပ်ငန်းစဉ်ကို

တိကျစွာစီမံခန့်ခွဲခြင်းဖြင့် ကုန်ထုတ်လုပ်နိုင်စွမ်းအား တိုးတက်လာသည်ဟု ဆိုပါသည်။

၁၉၁၁ ခုနှစ်က ထုတ်ဝေခဲ့သော Taylor ၏ "သိပ္ပံနည်းကျစီမံခန့်ခွဲမှု၏ အခြေခံသဘောတရားများ" စာအုပ်တွင် ရွေးချယ်ခြင်း၊ လေ့ကျင့်သင်ကြားခြင်းနှင့် ကြီးကြပ်ကွပ်ကဲခြင်းသည် အရေးအကြီးဆုံး နယ်ပယ်သုံးခု ဖြစ်ပါသည်။ လုပ်ငန်းအတွက် မှန်ကန်သောလူကို ရွေးချယ်ပါ။ "သံကြွပ်ကိုကိုင်တွယ်ရန် အသင့်တော်ဆုံးအလုပ်သမားသည် (သံကြွပ်၏) သိပ္ပံပညာကို နားလည်နိုင်မည်မဟုတ်ပါ"။

ထို့နောက် စီမံခန့်ခွဲသူများက စမ်းသပ်စစ်ဆေးပြီးဖြစ်သည့် အလုပ်သမားတစ်ယောက်ချင်းကို ၎င်းတို့၏ လုပ်ငန်းတာဝန်များကို ဆောင်ရွက်ရာတွင် အထိရောက်ဆုံးဖြစ်မည့်နည်းလမ်းများဖြင့် လေ့ကျင့်သင်ကြားပေးပါသည်။ စီမံခန့်ခွဲသူများ၏ ကြီးကြပ်ကွပ်ကဲခြင်းသည် ဤလုပ်ငန်းစဉ်ကို ဖြစ်မြောက်အောင်လုပ်ရာတွင် သော့ချက် ဖြစ်ပါသည်။ လုပ်ငန်းလုပ်ကိုင်ပုံ အလေ့အထများကို စောင့်ကြည့်စစ်ဆေးခြင်းသည် အလုပ်ချိန် အလေအလွင့်မရှိကြောင်းကို သေချာစေပါသည်။

## 'Ford စနစ်' ဆိုတာဘာလဲ

Ford စနစ် (Fordism) သည် အလုံးအရင်းဖြင့် ကုန်ထုတ်ခြင်းအဖြစ် ကျွန်ုပ်တို့သိထားသောအရာ၏ နောက်ကွယ်ရှိ ရှေ့ဆောင်လမ်းပြနည်းလမ်း ဖြစ်ပါသည်။ Model-T Ford မော်တော်ကားသည် အလုံးအရင်းနှင့်ထုတ်လုပ်သော ပထမဆုံးကုန်ပစ္စည်း ဖြစ်ပါသည်။ ကုန်ပစ္စည်းနှင့် ကုန်ထုတ်လုပ်မှုနည်းလမ်းနှစ်မျိုးစလုံးအရ Ford စနစ်တွင် စံချိန်စံညွှန်းသတ်မှတ်ခြင်းသည် အဓိကကျပါသည်။

"ကားသည်အနက်ရောင်ဖြစ်နေသရွေ့ မည်သည့်ဈေးဝယ်သူမဆို ၎င်းလိုချင်သည့် မည်သည့်အရောင်ရှိသည့်ကားကိုမဆို ရရှိနိုင်သည်" ဟု Henry Ford က ပြောခဲ့သည့်စကားမှာ ကျော်ကြားခဲ့ပါသည်။

ထုတ်လုပ်မှုကို စံချိန်စံညွှန်းသတ်မှတ်ပေးခြင်းကဲ့သို့ပင် စံချိန်



မိသော ကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်းသည် ကုန်ကျစရိတ်များကို လျှော့ချပေးပါသည်။ မစ္စတာ Ford သည် နှစ်ဆယ်ရာစုနှစ်စောစော ပိုင်းတွင် ရှီကာဂိုမြို့ရှိ အသားထုပ်ပိုးထည့်သွင်းသည့် အလုပ်ရုံများ၌ အသုံးပြုသောကိရိယာတစ်ခုကို မြင်ခဲ့ပြီးနောက် Assembly Line ခေါ် တပ်ဆင်ရေးလမ်းကြောင်းကို စတင်အသုံးပြုခဲ့ပါသည်။

ဤထုတ်လုပ်မှုလမ်းကြောင်းတစ်လျှောက်တွင် အလုပ်သမား တစ်ဦးစီကို ထပ်တလဲလဲလုပ်ရသော တစ်ခုတည်းသောအလုပ်တာဝန်ကို ပေးအပ်ခဲ့ပါသည်။ ဤသို့ပြုလုပ်ခြင်းသည် ကုန်ကျစရိတ်ကို လျှော့နည်း သွားစေပြီး ကုန်ထုတ်လုပ်မှုစွမ်းအားကို အများဆုံးဖြစ်အောင် လုပ်ပေး ပါသည်။ Ford သည် ၎င်း၏ ဈေးသက်သာသောကားအတွက် ဈေးကွက် တစ်ခုကို ဖန်တီးရန်နှင့် ကျွမ်းကျင်မှုမလိုသော လုပ်ငန်း၏ သဘာဝ အတွက် ၎င်း၏အလုပ်သမားများကို နစ်နာကြေးပေးရန် ပိုမိုမြင့်မားသော လုပ်ခပေးခြင်းကိုလည်း စတင်အသုံးပြုခဲ့ပါသည်။

**'ကျစ်လျစ်သောထုတ်လုပ်မှု' ဆိုတာဘာလဲ**

ကျစ်လျစ်သောထုတ်လုပ်မှု **(Lean Production)**၊ သို့မဟုတ် တိုယိုတာစနစ်သည် ကုန်ထုတ်လုပ်မှုလုပ်ငန်းစဉ်ကို ကျစ်လျစ်၍ စရိတ် သက်သာအောင်ထိန်းထားပြီး ၎င်းလုပ်ငန်းစဉ်မှ လေလွင့်ပြုန်းတီးမှု အားလုံးကို ဖယ်ရှားရန် ကြိုးစားသောနည်းလမ်းတစ်ခု ဖြစ်ပါသည်။

ဤစနစ်ကို တိုယိုတာစနစ်ဟု လူသိများခဲ့သည်မှာ ဤစနစ်ကို တိုယိုတာကုမ္ပဏီက ရှေ့ဆောင်လမ်းပြလုပ်ခဲ့ခြင်းဖြစ်ပြီး နှစ်ဆယ်ရာစု နှောင်းပိုင်း ဂျပန်နိုင်ငံတိုးတက်အောင်မြင်မှုနောက်ကွယ်တွင် ဤစနစ် ရှိနေခဲ့ပါသည်။

ဤစနစ်က ရှာဖွေဖော်ထုတ်ထားသော အဓိကပြဿနာသုံးခုမှာ ကုန်ပစ္စည်းများကို အလွန်အကျွံကိုင်ဆောင်ထားခြင်း၊ အလုပ်သမား များကို အလွန်အကျွံရွှေ့ပြောင်းခြင်းနှင့် ထုတ်လုပ်မှုလုပ်ငန်းစဉ်တွင် ကြန့်ကြာခြင်းများ ဖြစ်ပါသည်။

ကုန်ပစ္စည်းများကို အလွန်အကျွံရွှေ့ပြောင်းခြင်း၊ အလွန်အကျွံကုန်ထုတ်လုပ်ခြင်း၊ အလွန်အကျွံပြုပြင်ထုတ်လုပ်ခြင်းနှင့် ချွတ်ယွင်းချက်များသည်လည်း အလေအလွင့်နှင့် ကုန်ကျစရိတ်များကို တိုးစေသည်ဟု ဆိုပါသည်။ ပစ္စည်းအစိတ်အပိုင်းများနှင့် ထုတ်ကုန်ပစ္စည်းများကို ၎င်းတို့ကို လိုအပ်သောအချိန်နှင့် လိုအပ်သောနေရာသို့သာ အတိကျပို့ပေးသော 'အချိန်ကိုက်ဖြည့်ဆည်းထုတ်လုပ်မှု' သည် အကျော်ကြားဆုံး သွင်ပြင်လက္ခဏာတစ်ခု ဖြစ်ပါသည်။

အလိုအလျောက်လုပ်ပေးသော စက်ကိရိယာများနှင့် အဆင့်မြင့်ထုတ်လုပ်မှုနည်းပညာများကို အသုံးပြုခြင်းသည်လည်း ချွတ်ယွင်းချက်များကို ကန့်သတ်ပေးခြင်းဖြင့်လည်းကောင်း တပ်ဆင်ရေးလမ်းကြောင်း၏ ထုတ်လုပ်မှုစွမ်းရည်ကို ပိုမိုကောင်းမွန်စေခြင်းဖြင့်လည်းကောင်း ကုန်ကျစရိတ်များကို လျှော့ချပေးပါသည်။

## (၄)
## ငွေးခေါ်ရှင်ကြီးများ

ယူဆချက်များသည် မိုးပေါ် မှကျလာခဲ့ခြင်းမဟုတ်ပါ။ လွန်ခဲ့သည့် နှစ်ပေါင်း ၂၅၀ အတွင်း Adam Smith ၊ John Maynard Keynes ၊ Karl Marx တို့ ကဲ့သို့သော ထင်ပေါ် ကျော်ကြားသည့် ပုဂ္ဂိုလ်ကြီးများနှင့် ၎င်းတို့လောက် ကျော်ကြားခြင်းမရှိခဲ့သော အခြားပုဂ္ဂိုလ်ပေါင်းများစွာက ဘောဂဗေဒပညာရပ်၏နယ်ပယ်ကို ပုံဖော်ခဲ့ကြခြင်း ဖြစ်ပါသည်။ ၎င်းတို့၏သြဇာသည် ယနေ့ထက်တိုင် ရှိနေပါသေးသည်။

**'Adam Smith' ဆိုတာ ဘယ်သူလဲ**

'ခေတ်သစ်ဘောဂဗေဒ၏ ဖခင်ကြီး' ဖြစ်သော Adam Smith သည် Glasgow တက္ကသိုလ်မှ ဒဿနိကဗေဒပါမောက္ခတစ်ဦး ဖြစ်ပါသည်။ ဈေးဆိုင်ပိုင်ရှင်များသည် ၎င်းတို့၏ပစ္စည်းများကို ပရဟိတ လုပ်ဆောင်ရန်ရောင်းချခြင်းမဟုတ်ဘဲ အသက်မွေးဝမ်းကျောင်းလုပ်ရန်သာ ရောင်းချခြင်းဖြစ်ကြောင်း Smith က ဆိုခဲ့ပါသည်။ သို့ရာတွင် ၎င်းတို့၏ တစ်ကိုယ်ကောင်းဆန်မှုသည် လူ့အဖွဲ့အစည်းတစ်ခုလုံးကို အကျိုးပြုနေပါသည်။ လူ့အဖွဲ့အစည်း၏ လိုအပ်ချက်အတွက် မှန်ကန်သော ကုန်ပစ္စည်းအမျိုးအစားနှင့် မှန်ကန်သောကုန်ပစ္စည်းပမာဏကို သာအတိအကျထုတ်လုပ်သည်ကို သေချာအောင်လုပ်ပေးသောအရာမှာ

ဈေးကွက်၏ 'မမြင်ရသောလက်' ဖြစ်ပါသည်။ ယှဉ်ပြိုင်မှုသည် ဈေးဝယ်သူက ကုန်ပစ္စည်းတစ်မျိုးအတွက် အနိမ့်ဆုံးဈေးနှုန်းပေးရသည်ကို သေချာအောင်လုပ်ပေးသည်ဟု Smith က ဆိုပါသည်။

ဤနည်းဖြင့် လွတ်လပ်သောဈေးကွက်သည် ကုန်ထုတ်လုပ်မှုကို အကောင်းဆုံးဖြစ်စေပါသည်။ ၎င်းသည် 'The Wealth of Nations' (နိုင်ငံများ၏ ဥစ္စာခနေ) စာအုပ်ကိုရေးသားခြင်းဖြင့် အချိန်ဆယ်နှစ်ကုန်သွားခဲ့ပါသည်။ ၎င်းစာအုပ်ကို ၁၇၇၆ ခုနှစ်တွင် ထုတ်ဝေခဲ့ပါသည်။ ၎င်း၏ ယူဆချက်များကို လွတ်လပ်သော ရောင်းဝယ်ရေးသမားများက မလွတ်တမ်းအသုံးချခဲ့ကြပါသည်။ သို့ရာတွင် ဈေးကွက်များကို သင့်တင့်မျှတအောင် ပြုလုပ်ရန်အတွက် အစိုးရ၏ ဝင်ရောက်စွက်ဖက်မှုအချို့ကိုမူ လိုအပ်သည်ဟု Smith က ယုံကြည်ခဲ့ပါသည်။ ၎င်းသည် လက်ဝါးကြီးအုပ်ခြင်းနှင့် လုပ်ခများကိုကျဆင်းအောင် ပူးပေါင်းကြံစည်ကြသော အလုပ်ရှင်များကို ဒေါသတကြီး ပြစ်တင်ကြိမ်းမောင်းခဲ့ပါသည်။

**'David Ricardo' ဆိုတာ ဘယ်သူလဲ**

David Ricardo သည် လန်ဒန် စတော့ရှယ်ယာပွဲစားတစ်ယောက်ဖြစ်ပြီး စီးပွားရေးပညာကို စနစ်တကျဖြစ်စေ၍ ကျမ်းရိုးဘောဂဗေဒသီအိုရီအတွက် အခြေခံအုတ်မြစ်ကိုချခဲ့သူ ဖြစ်ပါသည်။ ၎င်းသည် စတော့ဈေးကွက်ကိုခန့်မှန်း၍ ကြီးပွားချမ်းသာခဲ့ပြီး Smith ၏ 'The Wealth of Nations' စာအုပ်ကို ဖတ်ခဲ့ပြီးနောက် ဘဝ၏ နောက်ပိုင်းတွင် ဘောဂဗေဒကို စိတ်ဝင်စားလာခဲ့ပါသည်။

ငွေအမြောက်အမြားကို ပုံနှိပ်ခြင်းဖြင့် ငွေကြေးဖောင်းပွမှုကို ဖန်တီးခဲ့ခြင်းအတွက် ၎င်းက အစိုးရကို အပြစ်တင်လိုက်သောအခါ ပထမဆုံး ကျော်ကြားလာခဲ့ပါသည်။ ၎င်းသည် ငွေကြေးထိန်းချုပ်မှုစနစ်၏အစ ဖြစ်ပါသည်။ နိုင်ငံတစ်နိုင်ငံက အခြားနိုင်ငံတစ်နိုင်ငံထက် စွမ်းရည်ပို၍နည်းနေသည့်တိုင် ကုန်သွယ်ဖက်နိုင်ငံများသည် ကုန်သွယ်မှုထံမှ အကျိုးအမြတ်ကို ရရှိကြသည်ကို ၎င်း၏ နှိုင်းရအားသာချက်

သီအိုရီက သက်သေပြခဲ့ပါသည်။

ထုတ်လုပ်မှုအဆင့် မြင့်တက်လာသောအခါ ကုန်ကျစရိတ်များ အချိုးအစားမမျှမတ မြင့်တက်ရသည့်အကြောင်းရင်းကို ရှင်းပြသည့် 'အမြတ်အစွန်း ယုတ်လျော့မှုသီအိုရီ' ကိုလည်း ၎င်းက တွေ့ရှိခဲ့ပါသည်။ စပိန်နွယ်ဖွား ဂျူးလူမျိုးတစ်ဦးအဖြစ် မွေးဖွားလာခဲ့သော Ricardo သည် ၎င်း၏ ဘာသာရေးနှင့် မိသားစုကိုကျောခိုင်း၍ အကြမ်းဖက်မှုနှင့် စစ်ဆန့်ကျင်ရေး ခရစ်ယာန် Quaker ဂိုဏ်းဝင် ချောမောလှပသော အမျိုးသမီးတစ်ဦးကို လက်ထပ်ခဲ့ပါသည်။ နောင်အခါတွင် ၎င်းသည် ပါလီမန်အမတ်တစ်ဦး ဖြစ်လာခဲ့ပါသည်။

## 'J. S. Mill' ဆိုတာ ဘယ်သူလဲ

John Stuart Mill သည် ဘောဂဗေဒနှင့် တွေးခေါ်ပညာရှင် James Mill ၏ အကြီးဆုံးသားဖြစ်ပြီး ၎င်း၏ဖခင်က ၎င်းကို ပညာတတ်တစ်ယောက်ဖြစ်စေရန်အတွက် ပိုးမွေးသလိုမွေးခဲ့ပါသည်။ Mill သည် လွတ်လပ်သောဈေးကွက်ကို အားပေးထောက်ခံ၍ လူအများက အခြားလူများကို အန္တရာယ်ပြုခြင်းမှ ကာကွယ်ရန်အတွက်သာလျှင် အစိုးရများက ဝင်ရောက်စွက်ဖက်သင့်သည် ဟူသော 'Harm Principle' (အန္တရာယ် အခြေခံသဘောတရား) ကို ယုံကြည်ခဲ့ပါသည်။

လူ့အဖွဲ့အစည်းသည် အရေအတွက်အများဆုံးသောလူများ၏ အကြီးမားဆုံးပျော်ရွှင်မှုကို ဖော်ဆောင်သင့်သည်ဟုလည်း ၎င်းက ယုံကြည်ခဲ့ပါသည်။ ၎င်းကို 'Utilitarianism' (လက်တွေ့အသုံးကျမှုဝါဒ) ဟု သိထားကြပါသည်။ လွတ်လပ်စွာပြောဆိုခွင့်ကို ကြီးမားစွာထောက်ခံသူတစ်ဦးဖြစ်သော Mill သည် ဆင်ဆာဖြတ်ခြင်းကို အလွန်မုန်းတီးခဲ့ပြီး မည်မျှပင် စက်ဆုပ်ရွံရှာဖွယ်ကောင်းသည်ဖြစ်စေ ယူဆချက်အားလုံးကို ပွင့်လင်းစွာဆွေးနွေးသင့်သည်ဟု ၎င်းက ယုံကြည်ပါသည်။ Mill သည် အမျိုးသမီးများ၏ အခွင့်အရေးများနှင့် အလုပ်သမားသမဝါယမအသင်းများကို စောစီးစွာ ထောက်ခံခဲ့သူတစ်ဦး ဖြစ်ပါသည်။ သဘာဝပတ်ဝန်း

ကျင်ကို ကယ်တင်ရန်အတွက် စီးပွားရေးတိုးတက်မှုကို လျော့ချရန် အထိပင် ၎င်းက အကြံပြုခဲ့ပါသည်။ ၎င်း၏ အကျော်ကြားဆုံးလက်ရာများမှာ 'နိုင်ငံရေးဘောဂဗေဒ အခြေခံသဘောတရားများ' (၁၈၄၈-ခုနှစ်) စာအုပ်နှင့် 'လွတ်လပ်ခြင်းဖြင့်' (၁၈၅၉-ခုနှစ်) စာအုပ်များ ဖြစ်ပါသည်။

**'Karl Marx' ဆိုတာ ဘယ်သူလဲ**

Karl Marx သည် ဂျာမန်တွေးခေါ်ပညာရှင်တစ်ဦးဖြစ်ပြီး ၎င်း၏ အတွေးအခေါ် အယူအဆများသည် နှစ်ဆယ်ရာစု၏အစပိုင်း ကွန်မြူနစ်တော်လှန်ရေးများ၏ အခြေခံစနစ်ကို ပုံဖော်ပေးခဲ့ပါသည်။ သမိုင်းအားလုံးသည် လူတန်းစားတိုက်ပွဲအကြောင်းသာဖြစ်သည်ဟု Marx က ယုံကြည်ထားပါသည်။

အရင်းရှင်ဝါဒသည် အလုပ်သမားများကို ခေါင်းပုံဖြတ်ခြင်းဖြင့်သာလျှင် အကျိုးအမြတ်ကို ရရှိနိုင်ပါသည်။ ဤသို့ဖြစ်နေခြင်းကို ကုန်ထုတ်အရင်းအနှီးများကို အလုပ်သမားများက အတင်းအကျပ်သိမ်းယူခြင်းဖြင့်သာလျှင် ပြောင်းလဲပစ်နိုင်ပါသည်။ နိုင်ငံရေးစနစ်အားလုံးသည် ၎င်းတို့အလိုအလျောက် ဖြစ်ပျက်သွားပါသည်။ မြေရှင်ပဒေသရာဇ်စနစ်ကို အရင်းရှင်စနစ်ကအစားထိုးခဲ့သကဲ့သို့ အရင်းရှင်းစနစ်ကိုလည်း ကွန်မြူနစ်စနစ်က အစားထိုးသွားမည် ဖြစ်ပါသည်။ ၎င်းသည် အချိန်ကလုပ်သွားမည့်ကိစ္စ ဖြစ်ပါသည်။

အရင်းရှင်စနစ်သည် လက်ဝါးကြီးအုပ်မှုဆီသို့ ဦးတည်နေသည့်အတွက် ကုန်ထုတ်အရင်းအရင်းအနှီးများကို သိမ်းယူရန် ပို၍လွယ်ကူအောင်လုပ်ပေးနေပါသည်။ ထို့ကြောင့် အရင်းရှင်စနစ်သည် ၎င်းကိုယ်တိုင်၏ ကျဆုံးမှုကို ကူညီပံ့ပိုးပေးနေပါသည်။ Marx သည် ၁၈၄၃ ခုနှစ်တွင် Jenny Von Westphalen နှင့်လက်ထပ်ခဲ့ပြီး ၎င်းနှင့် သားသမီး ခုနှစ်ဦး ရခဲ့ပါသည်။ Marx သည် ၁၈၈၃ ခုနှစ်၊ မတ်လတွင် လန်ဒန်မြို့ Hampstead ရပ်ကွက်၌ ဆင်းရဲနွမ်းပါးသည့်ဘဝဖြင့် ကွယ်လွန်ခဲ့ပါသည်။

Marx ၏အယူအဆများသည် ၎င်းသက်ရှိထင်ရှားရှိသည့် အချိန်တွင် လွန်စွာလူသိနည်းခဲ့သော်လည်း ၁၉၁၇ ခုနှစ်တွင် ရုရှနိုင်ငံ၏ ဘိုလ်ရှီဗစ်တော်လှန်ရေးကြီး ဖြစ်ပွားပြီးနောက်ပိုင်းတွင် ကမ္ဘာတစ်ဝှမ်းလုံး၌ အရေးပါလာခဲ့ပါသည်။

**'Alfred Marshall' ဆိုတာ ဘယ်သူလဲ**

Alfred Marshall သည် ဘောဂဗေဒပညာ၏ နုနယ်စဉ်အချိန်က တိကျသေချာသော သင်္ချာကို အသုံးပြုခြင်းဖြင့် ဤဘာသာရပ်ကို ပိုမိုသိပ္ပံနည်းကျသော အခြေခံစနစ်တစ်ခု ပေးခဲ့ပါသည်။ တစ်ချိန်တည်းမှာပင် ဤဘာသာရပ်ကို ပိုမိုကျယ်ပြန့်သော ပရိသတ်များ နားလည်လွယ်အောင်လုပ်ရန် ဆန္ဒပြင်းပြခဲ့သောကြောင့် ၎င်းက ၎င်း၏သင်္ချာအများစုကို စာမျက်နှာအောက်ခြေမှတ်ချက်များအဖြစ် အမြောက်အမြားထည့်သွင်းပေးခဲ့ပါသည်။

Marshall သည် ရောင်းလိုအားနှင့် ဝယ်လိုအားသီအိုရီကို ရှေ့ဆောင်လမ်းပြခဲ့ပြီး ကုန်ပစ္စည်းတစ်ခု၏ ဈေးနှုန်းနှင့် ထုတ်လုပ်မှုပမာဏကို ၎င်း၏ ရောင်းလိုအားနှင့် ဝယ်လိုအားက အဆုံးအဖြတ်ပေးသည်ဟု ၎င်းသီအိုရီက ဆိုပါသည်။ ကုန်ပစ္စည်းတစ်ခု၏ ပေါက်ဈေးနှုန်းသည် ရောင်းလိုအားနှင့် ဝယ်လိုအားပုံပြမျဉ်းကွေးများ ဆုံတွေ့ရာနေရာဖြစ်ကြောင်း ၎င်းကပြခဲ့ပါသည်။

၎င်းသည် အစွန်းထွက်စိတ်ကျေနပ်မှု (Marginal Utility) အယူအဆကိုလည်း တွေ့ရှိခဲ့ပါသည်။ အစွန်းထွက်စိတ်ကျေနပ်မှုသည် ဈေးနှုန်းမြင့်တက်မှုတစ်ခုခုက အရောင်းလျော့ကျမှုကို ဖြစ်ပေါ်စေမည့်နေရာ ဖြစ်ပါသည်။ ၎င်းသည် ဈေးနှုန်းအလျော့အတင်း (Price Elasticity) ကိုလည်း စတင်အသုံးပြုခဲ့ပါသည်။ ဈေးနှုန်းအလျော့အတင်းသည် သေးငယ်သော ဈေးနှုန်းပြောင်းလဲမှုများက အခြားကုန်ပစ္စည်းများထက် အချို့သော ကုန်ပစ္စည်းများကို ထိခိုက်စေမည့် အကြောင်းရင်းကို ရှင်းပြပါသည်။

၁၈၉၀ ခုနှစ်တွင် ထုတ်ဝေခဲ့သော ၎င်း၏ အကောင်းဆုံးဖြစ်သော 'ဘောဂဗေဒ အခြေခံသဘောတရားများ' ကျမ်းကြီးကို ရေးသားရန်အတွက် Marshall သည် အချိန်ဆယ်နှစ်ယူခဲ့ရပါသည်။ ၎င်းစာအုပ်၏ နောက်ဆက်တွဲစာအုပ်တစ်အုပ်ကိုရေး၍ အပြီးမသတ်မီ ၎င်းကွယ်လွန်ခဲ့ပါသည်။

**'Max Weber' ဆိုတာ ဘယ်သူလဲ**

ယခုအခါတွင် ၎င်းကို လူမှုဗေဒဘာသာရပ်ကို ထူထောင်ခဲ့သော ဖခင်ကြီးအဖြစ် သဘောထားနေကြသော်လည်း ၎င်းသက်ရှိထင်ရှားရှိခဲ့စဉ်အချိန်ကမူ Max Weber ကို အဓိကအားဖြင့် ဘောဂဗေဒပညာရှင်တစ်ဦးအဖြစ်သာ သိခဲ့ကြပါသည်။ ဘောဂဗေဒပညာကို စိတ်ကူးသက်သက် ယေဘုယျသဘောဖြင့် မဆွေးနွေးနိုင်ဘဲ လူ့သဘာဝကို ထည့်သွင်းစဉ်းစားရမည်ဟု ၎င်းက အခိုင်အမာပြောခဲ့ပါသည်။

၎င်းသည် လူသားတို့၏ အပြုအမူများကို သရုပ်ဖော်ပြရန်အတွက် 'စံပုံစံ' အချို့ကို ဖန်တီးခဲ့ပါသည်။ ဤဖန်တီးမှုသည် နောင်အခါတွင် '*Homo Economicus*' ခေါ် 'ချင့်ချိန်တတ်သော စီးပွားရေးလူသား' အတွက် အခြေခံတစ်ခု ဖြစ်လာခဲ့ပါသည်။ 'ပရိုတက်စတင့် ကိုယ်ကျင့်သိက္ခာ' နှင့် 'အရင်းရှင်စနစ်စိတ်ဓာတ်' စာအုပ်များတွင် ပရိုတက်စတင့်များသည် ရိုမန်ကက်သလစ်များထက် အရင်းရှင်စနစ်နှင့် ပို၍ကောင်းမွန်စွာ အလိုက်သင့်ပြောင်းလဲနိုင်ကြသည်ဟု ၎င်းက ရေးသားထားပါသည်။ အခြားတစ်နေရာတွင် ၎င်းက **'အစိုးရ' ဆိုသည်မှာ 'အကြမ်းဖက်မှုတရားဝင်သုံးစွဲခွင့်ကို လက်ဝါးကြီးအုပ်ခွင့် ၎င်းတွင်ရှိသည်ဟု အခိုင်အမာဆိုနေသော' တစ်ခုတည်းသော အဖွဲ့အစည်း**ဖြစ်ကြောင်း ဖော်ပြခဲ့ပါသည်။

**'Maynard Keynes' ဆိုတာ ဘယ်သူလဲ**

John Maynard Keynes သည် ကိန်းဘရစ်ချ်တက္ကသိုလ်မှ

ဘောဂဗေဒပါမောက္ခတစ်ဦးဖြစ်ပြီး စီးပွားရေးတွင် အစိုးရ၏ ဝင်ရောက်စွက်ဖက်ခြင်းကို ၎င်းက ထောက်ခံအားပေးခဲ့ပါသည်။ Keynes က "ရေရှည်မှာ ကျုပ်တို့အားလုံးသေပြီ" ဟုပြောပြီး လွတ်လပ်သောဈေးကွက်များသည် နောက်ဆုံးတွင် အလုပ်အကိုင်အပြည့်အဝရရှိမှုကို ဖြစ်ပေါ်စေသည်ဟူသော အယူအဆကို ငြင်းဆိုခဲ့ပါသည်။

ထို့အပြင် ကျမ်းရိုးသမားရိုးကျ အတွေးအခေါ်နှင့်အဆက်ဖြတ်၍ စီးပွားရေးကို ရောင်းလိုအားက မောင်းနှင်ခြင်းမဟုတ်ဘဲ ဝယ်လိုအားကသာ မောင်းနှင်နေခြင်းဖြစ်သည်ဟု ၎င်းက အခိုင်အမာပြောခဲ့ပါသည်။ ၎င်းသည် "တန်ပြန်လည်ပတ်သည့်" အစိုးရ၏ ဝင်ရောက်စွက်ဖက်ခြင်း၊ တစ်နည်းအားဖြင့် စီးပွားရေးအားနည်းသည့်အခါ ပိုမိုသုံးစွဲ၍ စီးပွားရေးအားကောင်းသည့်အခါ လျှော့၍သုံးစွဲခြင်းကို ထောက်ခံအားပေးခဲ့ပါသည်။ ၎င်း၏အယူအဆများကို ဒုတိယကမ္ဘာစစ်ပြီးကာလ အနောက်တိုင်းအစိုးရအများစုက သဘောတူလက်ခံခဲ့ကြပါသည်။

သို့ရာတွင် ၎င်း၏မူဝါဒများသည် ၁၉၇၀ ပြည့်လွန်နှစ်များက စီးပွားရေးတန့်နေခြင်းနှင့် ငွေကြေးဖောင်းပွမှု ပေါင်းစပ်နေသည့် ငွေကြေးဖောင်းပွမှု မြင့်မားလွန်းသောအခြေအနေ၏ ပြဿနာကို ဖြေရှင်းပေးနိုင်ခြင်းမရှိခဲ့သဖြင့် လူကြိုက်နည်းသွားခဲ့ပါသည်။ ၂၀၀၀ ပြည့်လွန်နှစ်များတွင် Barack Obama ၊ Gordon Brown နှင့် အခြားသူများ အကောင်အထည်ဖော်ခဲ့သည့် စီးပွားရေးလှုံ့ဆော်ပေးရေး အစီအစဉ်များတွင် Keynes ၏မူဝါဒ တစ်ကျော့ပြန်လည် ဝင်ရောက်လာခဲ့ပါသည်။

## 'Friedrich Hayek' ဆိုတာ ဘယ်သူလဲ

Hayek သည် ဩစတြီးယန်းလူမျိုး ဘောဂဗေဒပညာရှင်တစ်ဦးဖြစ်ပြီး ၎င်း၏အယူအဆများသည် Margaret Thatcher နှင့် Ronald Reagan တို့၏ မူဝါဒများအတွက် ဆင်ခြင်တုံတရားနှင့် ပြည့်ဝသောကျောထောက်နောက်ခံပြုမှုကို ပေးခဲ့ပါသည်။ ဗဟိုမှ စီမံကိန်းချသော စီးပွားရေးများသည် ပုဂ္ဂလိကလွတ်လပ်ခွင့်ဆုံးရှုံးမှုကို ဖြစ်ပေါ်စေ

သည်ဟု "ကျေးပိုင် ကျွန်ပိုင်စနစ်သို့သွားရာလမ်း" ဆိုသော ၎င်း၏စာအုပ် (၁၉၄၄ ခုနှစ်) က အခိုင်အမာဆိုထားပါသည်။

၁၉၇၀ ပြည့်လွန်နှစ်များနှင့် ၁၉၈၀ ပြည့်လွန်နှစ်များအတွင်း လူပေါင်းထောင်နှင့်ချီ၍ သေဆုံးမှု၌ တာဝန်ရှိသော ချီလီနိုင်ငံရှိ Pinochet အစိုးရကို ထောက်ခံခဲ့သည့်အတွက် ၎င်းသည် ကျယ်ပြန့်စွာ ဝေဖန်ခြင်းခံခဲ့ရပါသည်။ **လွတ်လပ်မှုကိုခွင့်မပြုသည့် ဒီမိုကရေစီအစိုးရတစ်ခု၏ အောက်တွင်နေရခြင်းထက် လွတ်လပ်မှုကိုခွင့်ပြုသော အာဏာရှင်အစိုးရတစ်ခု၏အောက်တွင် နေရခြင်းက ပို၍ကောင်းလိမ့်မည်**ဟု ၎င်းက ပြောခဲ့ပါသည်။

Hayek သည် ၁၉၃၈ ခုနှစ်တွင် ဗြိတိသျှနိုင်ငံသားတစ်ဦး ဖြစ်လာခဲ့ပါသည်။ သို့ရာတွင် ၁၉၅၀ ခုနှစ်တွင် အမေရိကန်နိုင်ငံ၊ ရှီကာဂိုမြို့သို့ ပြောင်းရွှေ့သွားခဲ့ပြန်ပါသည်။ ၎င်းသည် ၁၉၇၄ ခုနှစ်တွင် နိုဘယ်ဆုချီးမြှင့်ခြင်းခံခဲ့ရပြီး ၁၉၉၂ ခုနှစ်တွင် ကွယ်လွန်ခဲ့ပါသည်။ ၎င်းသည် ၎င်း၏အသက်ရှစ်ဆယ်ကျော်အရွယ်အတွင်း ဆိုရှယ်လစ်ဝါဒအပေါ် ပြင်းထန်သောဝေဖန်ရေးစာများကို ဆက်လက်ရေးသားခဲ့ပါသည်။ ၎င်း၏အမွေအနှစ်များသည် ယနေ့ထက်တိုင် ကျန်ရှိနေဆဲဖြစ်ပါသည်။

## 'Karl Polanyi' ဆိုတာ ဘယ်သူလဲ

Karl Polanyi သည် ဩစတြီးယန်းလူမျိုး တစ်မူထူးခြားသော ဘောဂဗေဒပညာရှင်တစ်ဦးဖြစ်ပြီး ၎င်းသည် ဘောဂဗေဒပညာရှင် Friedrich Hayek ကို စိတ်ဝင်စားစရာကောင်းသော စဉ်းစားစရာ ဆန့်ကျင်ဘက်အချက်အလက်များ ပေးခဲ့ပါသည်။ **အရင်းရှင်စနစ်သည် သဘာဝအခြေအနေတစ်ခုမဟုတ်ဘဲ ဘူဇွာများက ၎င်းတို့၏ အခွင့်ထူးခံအနေအထားကို ထိန်းသိမ်းထားရန် သန္နိဋ္ဌာန်ချမှတ်လိုက်ခြင်းမှ မွေးဖွားလာခဲ့သောအရာဖြစ်သည်**ဟု ၎င်းက ပြောခဲ့ပါသည်။

အရင်းရှင်စနစ်သည် လူ့အဖွဲ့အစည်းအတွင်း အလိုလိုရှိနေခဲ့သော ယခင်ကစနစ်များနှင့်မတူဘဲ ၎င်းကို စက်မှုတော်လှန်ရေး

ပေါ်ပေါက်လာမှုက ပြဋ္ဌာန်းပေးခဲ့ခြင်း ဖြစ်ပါသည်။ အရင်းရှင်စနစ်သည် ၎င်း၏သက်ရောက်မှုများကို လျှော့နည်းစေမည့် အစိုးရ၏ ဝင်ရောက်စွက်ဖက်မှုဟူ၍မရှိဘဲ သာမန်လူသားချင်းဆက်ဆံမှုများကို ဖျက်ဆီးပြီး သဘာဝပတ်ဝန်းကျင်ကို ဝါးမြိုသွားပါသည်။

၁၉၄၄ ခုနှစ်တွင် ထုတ်ဝေခဲ့သော ၎င်း၏ 'ဧရာမအသွင်ပြောင်းလဲခြင်း' စာအုပ်သည် ချီးကျူးဂုဏ်ပြုခြင်းခံခဲ့ရပြီး ယခုထက်တိုင် ၎င်းကိုဖတ်သူများ များပြားနေဆဲ ဖြစ်ပါသည်။ Polanyi သည် ပထမကမ္ဘာစစ်အတွင်းက ဩစတြီးယားဟန်ဂေရီးရီးယန်းတပ်မတော်၏ မြင်းတပ်ဗိုလ်တစ်ဦး ဖြစ်ခဲ့ပါသည်။ ၁၉၄၇ ခုနှစ်တွင် ကိုလံဘီယာတက္ကသိုလ်က ၎င်းကို အလုပ်တစ်ခုပေးခဲ့သော်လည်း ၎င်း၏ဇနီး၏ အတိတ်က ကွန်မြူနစ်ဖြစ်ခဲ့မှုကြောင့် ပြည်ဝင်ခွင့်ဗီဇာထုတ်ပေးရန် ငြင်းပယ်ခံခဲ့ရပါသည်။ ထို့ကြောင့် ၎င်းသည် ကနေဒါနိုင်ငံမှ အသွားအပြန်လုပ်၍ အလုပ်လုပ်ခဲ့ပါသည်။

## 'Hyman Minsky' ဆိုတာ ဘယ်သူလဲ

Hyman Minsky သည် ၂၀၀၇ ခုနှစ်က ချေးငွေအကျပ်အတည်းကြီးကို ၎င်းအကျပ်အတည်းကြီး ဖြစ်ပွားမလာခင် နှစ်ပေါင်းလေးဆယ်ကြိုတင်၍ ဟောကိန်းထုတ်ခဲ့သော အမေရိကန်ဘောဂဗေဒပညာရှင်တစ်ဦး ဖြစ်ပါသည်။

စီးပွားရေးကောင်းနေမှုကြီးက ကျဆင်းမှုဖြစ်သွားရခြင်းမှာ ရင်းနှီးမြှုပ်နှံသူများက ကိုယ့်ကိုယ်ကိုယ် အားရကျေနပ်သွားပြီး ပိုမိုကြီးမားသည့် စွန့်စားမှုများကိုပြုလုပ်ကာ ၎င်းတို့တတ်နိုင်သည်ထက် ပို၍ချေးငှားသည်အထိ ရောက်သွားကြသောကြောင့်ဖြစ်သည်ဟု ၎င်းက ယုံကြည်ခဲ့ပါသည်။ ကြိုတင်ဝယ်ရောင်းပြုလုပ်သူ၊ စွန့်စားရောင်းဝယ်သူနှင့် Ponzi ခေါ် ကြေးသစ်ယူ၍ ကြွေးဟောင်းဆပ်သူဟူသော ငွေချေးယူသူ သုံးမျိုးကို ၎င်းက ဖော်ထုတ်ခဲ့ပါသည်။ ကြိုတင်ဝယ်ရောင်းပြုလုပ်သူများသည် အတိုးရောအရင်းကိုပါ ပြန်လည်ပေးဆပ်ပါသည်။ စွန့်စား

ရောင်းဝယ်သူများသည် အတိုးကိုသာ ပြန်လည်ပေးဆပ်ကြပါသည်။ Ponzi များက ကြွေးမြီများကို ပြန်လည်ပေးဆပ်ရန်မှာ ပိုင်ဆိုင်ပစ္စည်းများကို တန်ဖိုးဖြတ်မှုအပေါ်တွင် မူတည်နေပါသည်။

Ponzi များ ကြွေးဆပ်ရန်ပျက်ကွက်သောအခါ ကွင်းဆက်တုံ့ပြန်မှုတစ်ခုဖြစ်ပေါ်ပြီး ဘဏ်များသည် ကြိုတင်ဝယ်ရောင်းပြုလုပ်သူများကို ထုတ်ချေးခြင်းကိုပင်လျှင် ရပ်ဆိုင်းပစ်ကြပါသည်။ ယင်းသို့ဖြစ်ပွားသည့်အချိန်သည် 'Minsky ကာလ' ဖြစ်ပါသည်။ ဈေးကွက်များသည် ပင်ကိုအားဖြင့် တည်ငြိမ်မှုရှိသည်ဟု ယုံကြည်ကြသော ဘောဂဗေဒပညာရှင်အများစုနှင့် မတူသော Minsky က စီးပွားရေးကောင်းခြင်းနှင့် ကျဆင်းမှုသံသရာကို ရှောင်လွှဲ၍မရအောင် လူ့သဘာဝက ဖန်တီးနေသည်ဟု ယုံကြည်ထားပါသည်။

Minsky သည် ၁၉၈၀ ပြည့်လွန်နှစ်များအတွင်းက ငွေကြေးဈေးကွက်များကို စည်းကမ်းထိန်းသိမ်းခြင်းမှ ကင်းလွတ်ခွင့်ပေးခြင်းကို ဆန့်ကျင်ပါသည်။ အကြောင်းမှာ ယင်းသို့ပြုလုပ်ခြင်းသည် အလွန်အကျွံစွန့်စားခြင်းကို အားပေးလိမ့်မည်ဟု ယုံကြည်သောကြောင့် ဖြစ်ပါသည်။

**'Milton Friedman' ဆိုတာ ဘယ်သူလဲ**

Economist မဂ္ဂဇင်းကြီး၏ အဆိုအရ Milton Friedman သည် နှစ်ဆယ်ရာစု၏ ဒုတိယပိုင်းတွင် သြဇာအကြီးမားဆုံး ဘောဂဗေဒပညာရှင်တစ်ဦး ဖြစ်ပါသည်။ အစပိုင်းတွင် Keynes ကို ကြည်ညိုလေးစားသူတစ်ဦးဖြစ်ခဲ့သော Friedman သည် လည်ပတ်ငွေပမာဏကို ထိန်းချုပ်ခြင်းသည် အစိုးရ၏သုံးစွဲမှုထက် ပို၍အရေးကြီးကြောင်း ပြောဆို၍ ၁၉၆၀ ပြည့်လွန်နှစ်များက လူထု၏တုံ့ပြန်မှုကို ဦးဆောင်ခဲ့ပါသည်။

၎င်းသည် လွတ်လပ်သောဈေးကွက်များကို အခိုင်အမာထောက်ခံသူတစ်ဦးဖြစ်ပြီး အစိုးရ၏ဝင်ရောက်စွက်ဖက်မှုကို အကြွင်းမဲ့အနည်းဆုံးဖြစ်အောင်ထိန်းထားခြင်းကို ယုံကြည်ခဲ့ပါသည်။ Ronald

Reagan ၏ အကြံပေးနှင့် "ဝါရှင်တန်အများဆန္ဒ" ဟုခေါ်သောအဖွဲ့တွင် အဓိကပုဂ္ဂိုလ်တစ်ဦးအဖြစ် ၎င်းသည် ၁၉၈၀ ပြည့်လွန်နှစ်များအတွင်း ဈေးကွက်အပေါ် ထိန်းချုပ်မှုကင်းလွတ်ရေးလှုံ့ဆော်မှုကို ဦးဆောင်ခဲ့ပါသည်။

၎င်းနှင့် ၎င်း၏ဇနီး Rose တို့က တီဗီဇာတ်လမ်းတွဲများနှင့် အရောင်းရဆုံးစာအုပ်တစ်အုပ်ဖြစ်သော "လွတ်လပ်စွာရွေးချယ်နိုင်ပါသည်" စာအုပ်ကိုရေးသားလိုက်သောအခါ ၎င်းသည် အမေရိကန်နိုင်ငံတွင် လူသိများထင်ရှားလာခဲ့ပါသည်။ ၎င်းသည် ၁၉၇၆ ခုနှစ်တွင် ဘောဂဗေဒပညာရပ်အတွက် နိုဘယ်လ်ဆုနှင့် ၁၉၈၈ ခုနှစ်တွင် Ronald Reagan ၏ 'သမ္မတ၏လွတ်လပ်ရေးဆု' ကို ချီးမြှင့်ခြင်းခံခဲ့ရပါသည်။ ၎င်းသည် ၂၀၀၆ ခုနှစ်တွင် ကွယ်လွန်ခဲ့ပါသည်။

**'Gary Becker' ဆိုတာ ဘယ်သူလဲ**

Gary Becker သည် အမေရိကန် ဘောဂဗေဒပညာရှင်တစ်ဦးဖြစ်ပြီး ၎င်းသည် ဘောဂဗေဒသီအိုရီများကို မိသားစု၊ လူမျိုးရေး၊ ပြစ်မှုစသည့် လူမှုဗေဒနှင့် များသောအားဖြင့် ဆက်စပ်နေသည့် နယ်ပယ်များတွင် အသုံးချခဲ့ပါသည်။ Becker ၏ ပထမဆုံးအဓိကလုပ်ငန်းသည် လူမျိုးရေးဆိုင်ရာကိစ္စများနှင့် ပတ်သက်ခဲ့ပါသည်။ လူအများသည် ၎င်းတို့နှင့် လူမျိုးချင်းမတူသူတစ်ဦးတစ်ယောက်ကို ဈေးရောင်းလျှင် ဈေးပို၍တောင်းကြသည်ကို ၎င်းက ရှာဖွေတွေ့ရှိခဲ့ပါသည်။

၎င်းသည် ၎င်း၏ "ကလေးဆိုးသီအိုရမ်" ဖြင့် အကျော်ကြားဆုံးဖြစ်ခဲ့ပါသည်။ ၎င်းတို့အတွက် အကျိုးရှိလိမ့်မည်ဟုသိထားလျှင် ကလေးဆိုးများသည်ပင်လျှင် ၎င်းတို့၏ မွေးချင်းများအပေါ်၌ ကောင်းစွာဆက်ဆံကြလိမ့်မည်ဟု ၎င်းသီအိုရီက ဆိုပါသည်။ ထို့အပြင် **ကွာရှင်းမှုတစ်ခုလုပ်ရခြင်း၏ ကုန်ကျစရိတ်သည် လွန်စွာပိုမိုကြီးမားသောကြောင့် ချမ်းသာသောဇနီးမောင်နှံများသည် ဆင်းရဲသောဇနီးမောင်နှံများထက် ပို၍အတူနေလိုကြပါသည်။**

အမျိုးသမီးများ အလုပ်သို့ပို၍သွားကြသည့်အတွက် ၎င်းတို့၏ အချိန်၏ တန်ဖိုးတိုးလာသကဲ့သို့ ကလေးတစ်ယောက်မွေးမြူရသည့် သိသာထင်ရှားသော ကုန်ကျစရိတ်သည်လည်း တိုးလာပါသည်။ ဤသို့ဖြစ်ခြင်းသည် ကလေးမွေးဖွားနှုန်း ကျဆင်းခြင်းကို ဖြစ်ပေါ်စေပါသည်။ Becker ၏အမြင်များသည် ၎င်း၏ သက်ရှိထင်ရှားရှိနေစဉ်ကာလအတွင်း တဖြည်းဖြည်းချင်းယုံကြည်လက်ခံမှုကိုရရှိခဲ့ပြီး ယခုအခါ ကျယ်ပြန့်စွာ လက်ခံယုံကြည်မှုကို ရရှိနေပြီ ဖြစ်ပါသည်။ ၎င်းသည် ၁၉၉၂ ခုနှစ်တွင် ဘောဂဗေဒပညာရပ်အတွက် နိုဘယ်လ်ဆုချီးမြှင့်ခြင်း ခံခဲ့ရပါသည်။

## (၅)
## အစစ်အမှန်မဟုတ်သောငွေ

စီးပွားရေးပညာများအားလုံးသည် ကုန်ထုတ်လုပ်မှု၊ အလုပ်အကိုင်များနှင့် ဆက်စပ်နေသည် မဟုတ်ပါ။ ယခုခေတ် စီးပွားရေးလုပ်ငန်းကြီးအများစုအတွက် ငွေကြေးဖြည့်ဆည်းပေးနေသော ငွေကြေးဈေးကွက်များသည်လည်း ထိုကုန်ထုတ်လုပ်မှု၊ အလုပ်အကိုင်များနှင့် တန်းတူအရေးကြီးပါသည်။ ပန်းသီးစိုက်ပျိုးသောကုမ္ပဏီတစ်ခု၏ ငွေကြေးဈေးကွက်နှင့် ပတ်သက်သော လုပ်ကိုင်ဆောင်ရွက်ပုံနည်းလမ်းသည် သစ်သီးဈေးကွက်တွင် ၎င်း၏ လုပ်ကိုင်ဆောင်ရွက်ပုံနည်းလမ်းထက် ပို၍အရေးကြီးနိုင်ပါသည်။

**'စတော့နှင့် ရှယ်ယာ' ဆိုတာ ဘာလဲ**

ကုမ္ပဏီတစ်ခုက ငွေကိုရှာဖွေရယူလိုလျှင် လုပ်နေကျဖြေရှင်းချက်တစ်ခုမှာ စတော့ (Stock) များကို ထုတ်ဝေ၍ ရင်းနှီးမြှုပ်နှံသူများကို ရောင်းချခြင်းပင် ဖြစ်ပါသည်။ စတော့များကို 'Equity' ဟုလည်း ခေါ်ပါသည်။ 'စတော့' သည် ယေဘုယျဝေါဟာရတစ်ခုဖြစ်ပြီး 'ရှယ်ယာ' (Share) သည် တိကျသောဝေါဟာရ ဖြစ်ပါသည်။ သင့်အနေဖြင့် ကုမ္ပဏီများစွာထံမှ စတော့များကို ပိုင်ဆိုင်နိုင်ပါသည်။ သို့တည်းမဟုတ် Starbucks ကုမ္ပဏီတွင် ရှယ်ယာများကို ပိုင်ဆိုင်နိုင်ပါသည်။

အများပြည်သူသို့ ရှယ်ယာများဝယ်ရန် ကမ်းလှမ်းသောကုမ္ပဏီများကို အများပိုင်ကုမ္ပဏီများဟု ခေါ်ပါသည်။ အချို့ကုမ္ပဏီများသည် ထုတ်ပေးထားသော ရှယ်ယာများသန်းနှင့်ချီ၍ ရှိပါသည်။ ရင်းနှီးမြှုပ်နှံသူများက စတော့များကိုဝယ်သောအခါ ၎င်းတို့သည် လုပ်ငန်း၏ တစ်စိတ်တစ်ပိုင်းကို ပိုင်ဆိုင်သွားကြပါသည်။ ၎င်းကို Equity Stake ဟုခေါ်၍ ထိုရင်းနှီးမြှုပ်နှံသူများအနေဖြင့် နှစ်ပတ်လည်အစည်းအဝေးများတွင် မဲပေးနိုင်သည်ကို ဆိုလိုပါသည်။

၎င်းတို့သည် အကျိုးအမြတ်များ၏ ရှယ်ယာတစ်ခုကိုလည်း အမြတ်ဝေစုဟုခေါ်သော ပေးငွေအဖြစ် ရရှိပါသည်။ အမြတ်ဝေစုများကို တစ်နှစ်လျှင်တစ်ကြိမ်၊ သို့မဟုတ် နှစ်ကြိမ် ရှယ်ယာရှင်များသို့ ထုတ်ပေးပါသည်။ ရှယ်ယာတန်ဖိုးများသည် ကုမ္ပဏီ၏ လုပ်ငန်းဆောင်ရွက်မှု၊ သတင်းဖော်ပြချက်များ၊ အမြတ်ဝေစုများ၊ အနာဂတ်မျှော်မှန်းဝင်ငွေများနှင့် စတော့စျေးကွက်ရောင်းချမှုများအပေါ်တွင် မူတည်၍ အတက်အကျ ရှိပါသည်။

**Bond ဆိုတာ ဘာလဲ**

Bond (ငွေချေးစာချုပ်) များကိုထုတ်ဝေခြင်းသည် ကုမ္ပဏီတစ်ခုက ၎င်း၏လုပ်ငန်းကို ဘဏ္ဍာငွေဖြည့်ဆည်းသည့် နောက်ထပ်နည်းလမ်းတစ်ခု ဖြစ်ပါသည်။ မြို့ကြီးများနှင့် အစိုးရများသည်လည်း ငွေကြေးရှာဖွေရန်အတွက် ၎င်းတို့ကို အသုံးပြုကြပါသည်။ Bond များသည် ရင်းနှီးမြှုပ်နှံသူများက ကုမ္ပဏီတစ်ခုထဲတွင် ရင်းနှီးမြှုပ်နှံမှုတစ်ခုကိုဝယ်ယူခြင်းဖြစ်သည့် စတော့များနှင့်မတူပါ။ Bond များသည် ချေးငွေများဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံသူများက ငွေကိုချေး၍ သတ်မှတ်ထားသော နေ့ရက်တွင် ပြန်လည်ပေးဆပ်ငွေကို မျှော်လင့်ထားပါသည်။

Bond များသည်လည်း သတ်မှတ်ထားသောကာလများတွင် သတ်မှတ်ထားသောအတိုးငွေကို ရရှိကြပါသည်။ ၎င်းတို့သည် စတော့များနှင့်မတူဘဲ မည်သည့်အချိန်တွင်ဖြစ်စေ ငွေပြန်ဖြစ်နိုင်ပါသည်။

သို့ရာတွင် ၎င်းတို့တွင် အာမခံထားသောတန်ဖိုး မရှိပါ။ ရေရှည်တွင် ရင်းနှီးမြှုပ်နှံသူများသည် Bond များထက် စတော့များထံမှ ငွေပိုမို များပြားစွာရရှိနိုင်ပါသည်။ သို့ရာတွင် Bond များတွင် အားသာချက်များ ရှိပါသည်။

**Bond** များတွင် ပြန်လည်ပေးဆပ်မှုကို အာမခံထားသလောက် နီးပါး ဖြစ်ပါသည်။ အတိုးငွေကို ပုံမှန်ကာလများတွင်ပေးချေပြီး အစိုးရ သို့မဟုတ် စည်ပင်သာယာ Bond များအတွက် အတိုးငွေများအပေါ်တွင် အခွန်ပေးဆောင်ရန်မလိုပါ။ စတော့များနှင့် Bond များသည် ရင်းနှီး မြှုပ်နှံမှုဆိုင်ရာစာချုပ်စာတမ်း (Securities) အမျိုးအစားများ ဖြစ်ကြ ပါသည်။ Securities သည် ပိုင်ဆိုင်မှု၊ သို့မဟုတ် ကြွေးမြီကို ကိုယ်စား ပြုသော ရင်းနှီးမြှုပ်နှံမှုစာချုပ်စာတမ်းအားလုံးနှင့်ဆိုင်သော ဝေါဟာရ ဖြစ်ပါသည်။

**'စတော့ဈေးကွက်' ဆိုတာ ဘာလဲ**

စတော့ဈေးကွက် (Stock Market) များသည် ရင်းနှီးမြှုပ်နှံရန် ငွေရှိသောလူများကို ငွေလိုအပ်သောလူများနှင့် ဆက်သွယ်ပေး၍ ကုမ္ပဏီများနှင့် စီးပွားရေးအဆောက်အအုံကို တိုးတက်အောင် ကူညီ ပါသည်။ အချို့ကုန်သွယ်မှုများကို စတော့ဒိုင်များတွင် ကိုယ်တိုင်ကိုယ်ကျ ပြုလုပ်ပြီး အချို့ကို အီလက်ထရွန်းနစ်ဖြင့် ပြုလုပ်သော်လည်း ဤလုပ် ဆောင်ချက်အားလုံးကို 'စတော့ဈေးကွက်' က ဖော်ပြပါသည်။

စတော့များကို လျင်မြန်စွာ မကြာခဏရောင်းဝယ်နိုင်သောကြောင့် အိမ်ခြံမြေကဲ့သို့သော ရင်းနှီးမြှုပ်နှံမှုများနှင့်မတူဘဲ စတော့ဈေးကွက်တွင် ငွေဖြစ်လွယ်မှု များစွာရှိပါသည်။ ဈေးကွက်တစ်ခုသည် 'Bull Market' (နွားသိုးဈေးကွက်) အဖြစ် အဝယ်လိုက်နေသောအခါ စတော့ဈေးနှုန်း များမြင့်တက်နေပြီး 'Bear Market' (ဝက်ဝံဈေးကွက်) အဖြစ် ထုတ်ရောင်း သူများ များနေသောအခါ စတော့ဈေးနှုန်းများ ကျဆင်းနေပါသည်။

သီအိုရီတွင် စတော့ဈေးကွက်သည် မတည်ရင်းနှီးငွေများကို

လိုအပ်သည့်နေရာသို့ ခွဲဝေပေး၍ စတော့ဈေးနှုန်းများသည် ကုမ္ပဏီများ၏ ငုပ်နေသောတန်ဖိုးများကို ဖော်ပြနေပါသည်။ သို့ရာတွင် ရေတိုအမြတ်အစွန်းများရအောင်လုပ်ရန် ဖိအားပေးခံနေရသော ရင်းနှီးမြှုပ်နှံသူများသည် ပိုင်ဆိုင်ပစ္စည်းများကို ပိုမိုတန်ဖိုးတွက်ချက်၍ ဈေးကွက်အဆင့်များကို ချဲ့ကားပြီး လတ်တလောတက်နေသောအရာများကို မကြာခဏ ဝယ်ယူကြပါသည်။

ဤ "အများလုပ်သလို လိုက်လုပ်သော စိတ်သဘောထား" သည် ပြီးခဲ့သော ၁၉၉၀ ပြည့်လွန်နှစ်များက dot.com ပူဖောင်းကဲ့သို့ စွန့်စားရင်းနှီးမြှုပ်နှံသော ပူဖောင်းများကို ဖန်တီးနိုင်ပြီး ရုတ်တရက် ဈေးထိုးကျမှုများသည် ထိခိုက်နစ်နာနိုင်ပါသည်။ နိုင်ငံတစ်နိုင်ငံ၏ စတော့ဈေးကွက်ကို ၎င်းနိုင်ငံ၏ စီးပွားရေးတောင့်တင်းမှု၏ အရေးကြီးသော အချက်ပြမှုတစ်ခုအဖြစ် ယူဆပါသည်။

**'Derivative' ဆိုတာ ဘာလဲ**

Derivative (ဆင့်ပွားစတော့ရှယ်ယာလက်မှတ်) တစ်ခုကို ဝယ်ယူခြင်းသည် အလောင်းအစားတစ်ခုလုပ်ခြင်းနှင့် တူပါသည်။ အဘယ့်ကြောင့်ဆိုသော် Derivative တစ်ခုတွင် ကိုယ်ပိုင်တန်ဖိုးမရှိဘဲ ၎င်း၏တန်ဖိုးသည် အခြားတစ်စုံတစ်ခု၏ ရလဒ်အပေါ်တွင် မူတည်နေသောကြောင့် ဖြစ်ပါသည်။ အဆိုပါတန်ဖိုးသည် ရွှေဈေးနှုန်းများ၊ အတိုးနှုန်းများ၊ စတော့ဈေးကွက်၊ ကြွေးဆပ်ရန်ပျက်ကွက်မှုများ၊ သို့မဟုတ် အခြား Derivative များ စသည့် အရာများစွာထံမှလာနိုင်ပါသည်။

သင်၏မိတ်ဆွေတစ်ဦးက ဇူလိုင်လတွင် အပူချိန် ၉၀ ဒီဂရီ ကျော်သည့်အခါတိုင်း ၎င်းကို သင်ကဘီယာ တစ်ခွက်ဝယ်တိုက်မည်ဟု ကတိပြုရန် သင့်ကို ၁၀ ဒေါ်လာပေးလျှင် ထိုအရာသည် Derivative ဖြစ်ပါသည်။ Derivative ဈေးကွက်သည် ကမ္ဘာ့စီးပွားရေး၏ ဆယ်ဆကျော်သည်အထိ ဒေါ်လာထရီလီယံပေါင်းရာနှင့်ချီ၍ တန်ဖိုးရှိပါသည်။ ရင်းနှီးမြှုပ်နှံသူများသည် (ကြိုတင်ရောင်းဝယ်မှုပြုလုပ်ခြင်းဖြင့်) စွန့်စားမှု

များကိုအာမခံလုပ်ရန်၊ သို့မဟုတ် (စွန့်စားရောင်းဝယ်ခြင်းဖြင့်) အမြတ်အစွန်းအတွက် စွန့်စားမှုပြုလုပ်ရန် Derivative များကို အသုံးပြုကြပါသည်။ ကြိုတင်ရောင်းဝယ်သော အစုရှယ်ယာများ (futures) ကဲ့သို့သော အချို့အရာများရှိနေခဲ့သည်မှာ ကြာပြီဖြစ်သော်လည်း မကြာသေးခင်နှစ်များအတွင်းကမှ လွန်စွာရှုပ်ထွေး၍ အလွန်အန္တရာယ်များသော ဤ Derivative များကို ဖော်ထုတ်ခဲ့ပါသည်။

ကြီးမားသောဆုံးရှုံးမှု အနည်းငယ်က ငွေကြေးအကျပ်အတည်းတစ်ခုကို ပေါ်ပေါက်စေနိုင်သဖြင့် ရင်းနှီးမြှုပ်နှံသူပုဂ္ဂိုလ်ကြီး Warren Buffett က Derivative များကို "အစုလိုက်အပြုံလိုက်ဖျက်ဆီးမည့် ငွေကြေးလက်နက်များ" ဟု ခေါ်ခဲ့ပါသည်။

## 'Futures' ဆိုတာ ဘာလဲ

Futures (ကြိုတင်ရောင်းဝယ်သောအစုရှယ်ယာ) များသည် ၁၉၅၀ ပြည့်လွန်နှစ်များက စိုက်ပျိုးရေးကုန်ပစ္စည်းထုတ်လုပ်သူများနှင့် ဝယ်ယူသူများကို ဈေးနှုန်းပြောင်းလဲခြင်းများမှ ကာကွယ်စောင့်ရှောက်ရန် ဖန်တီးခဲ့သော Derivative တစ်မျိုးပင် ဖြစ်သည်။ လအနည်းငယ်ကြိုတင်၍ သတ်မှတ်ထားသောဈေးနှုန်းတစ်ခုဖြင့် (သတ်မှတ်ထားသော သီးနှံပမာဏကဲ့သို့) တစ်စုံတစ်ခုကိုဖလှယ်ရန် ရောင်းသူနှင့် ဝယ်သူတို့က သဘောတူညီကြပါသည်။

၎င်းသည် စွန့်စားမှုကို လျှော့နည်းစေပါသည်။ (လက်ငင်းဈေးနှုန်း) များကျဆင်းလျှင် လယ်သမားများ ငွေကြေးဆုံးရှုံးမည်မဟုတ်သကဲ့သို့ ပေါက်ဈေးနှုန်းမြင့်တက်လျှင်လည်း ဝယ်သူများက အလွန်အကျွံပေးရလိမ့်မည် မဟုတ်ပါ။ လူအများသည် သီးနှံများရောင်းဝယ်ရန် ရည်ရွယ်ချက်မရှိဘဲ ကွာခြားချက်ကို ငွေသားဖြင့်သတ်မှတ်၍ တစ်နည်းအားဖြင့် အမြတ်ကိုမှန်းဆ၍ Futures များကို စတင်ဝယ်ယူခဲ့ကြပါသည်။ အလားတူ အခြေခံတွက်ချက်မှုစနစ်ဖြင့် ၁၉၇၂ ခုနှစ်တွင် ကြိုတင်ရောင်းဝယ်သောငွေကြေးများကို တီထွင်ဖန်တီးခဲ့ကြပါသည်။ ၎င်းတို့သည်

ငွေကြေးလဲလှယ်မှုနှုန်းပြောင်းလဲခြင်းမှ ရင်းနှီးမြှုပ်နှံသူများကို ကာကွယ်၍ စွန့်စားရောင်းဝယ်ခြင်းကိုခွင့်ပြုခဲ့ပါသည်။

ထိုအချိန်မှစ၍ ရေနံကဲ့သို့သော အခြားကုန်ပစ္စည်းများ၊ အတိုးနှုန်း၊ စတော့ဈေးနှုန်းနှင့် ပြည်ပအစိုးရများ၏ ကြွေးမြီများအတွက် ပင်လျှင် Futures များကို ဖန်တီးခဲ့ပါသည်။ အချို့သော ငွေကြေး လုပ်ဆောင်ချက်များနှင့်မတူဘဲ Futures များတွင် စံညွှန်းသတ်မှတ်ချက် များရှိပြီး အေဂျင်စီများက စည်းကမ်းထိန်းသိမ်းပေးသကဲ့သို့ ဗဟို ရုံးများတွင် ရောင်းဝယ်ဖလှယ်ကြပါသည်။

## 'Speculation' ဆိုတာ ဘာလဲ

Speculation (စွန့်စားရောင်းဝယ်ခြင်း) ဆိုသည်မှာ ဈေးနှုန်း အတက်အကျရှိမှုထံမှ အမြတ်ရရှိရန်အတွက် (စတော့များ၊ ငွေချေး စာချုပ်များ၊ ကြိုတင်ရောင်းဝယ်သော အစုရှယ်ယာများကဲ့သို့) ငွေကြေး ဆိုင်ရာ အစုရှယ်ယာလက်မှတ်များကို ရောင်းဝယ်ခြင်း၊ သို့မဟုတ် လက်ဝယ်ကိုင်ဆောင်ထားခြင်း ဖြစ်သည်။

စွန့်စားရောင်းဝယ်ခြင်းဆိုသည်မှာ များသောအားဖြင့် ရေတို လုပ်ငန်းဖြစ်ပြီး ၎င်းသည် အလွန်ကြီးမားသော အကျိုးအမြတ်၊ သို့မဟုတ် အလွန်ကြီးမားသော ဆုံးရှုံးမှုဖြစ်မည့်အလားအလာရှိသည့် စွန့်စားရသော လုပ်ငန်းတစ်ခု ဖြစ်ပါသည်။ Speculation သည် စတင်တည်ထောင်သည့် ကုမ္ပဏီများ၊ သို့မဟုတ် အနာဂတ်ဈေးနှုန်းများအပေါ်တွင် လောင်းကြေး ထပ်ခြင်းဖြင့် ရင်းနှီးမြှုပ်နှံသူများ အကျိုးအမြတ်ရရှိမည့် ရေနံကဲ့သို့ ပြောင်းလဲလွယ်သောကုန်ပစ္စည်းများနှင့် မကြာခဏပတ်သက်နေပါသည်။

စွန့်စားရောင်းဝယ်သူများသည် Leverage ခေါ် ရင်းနှီးမြှုပ်နှံရန် ငွေချေးယူခြင်းကို မကြာခဏ အသုံးပြုကြပါသည်။ ချေးယူထားသော ငွေကို ရင်းနှီးမြှုပ်နှံခြင်းသည် အမြတ်အစွန်းများကို တိုးစေနိုင်သော်လည်း ကြီးမားသောဆုံးရှုံးမှုများလည်း ဖြစ်ပေါ်လာနိုင်ပါသည်။ ပါးနပ်သော ရင်းနှီးမြှုပ်နှံသူများသည် ကြိုတင်ရောင်းဝယ်ကြပါသည်။ ၎င်းတို့သည်

အလားအလာရှိသည့် ဆုံးရှုံးမှုများကို ကန့်သတ်ရန်အတွက် တစ်ခုနှင့် တစ်ခုထေမိမည့်အနေအထားများကို ရယူကြပါသည်။ သို့ရာတွင် ဤသို့ ပြုလုပ်ခြင်းသည် အလားအလာရှိသည့် အမြတ်အစွန်းများကိုလည်း အကန့်အသတ်ဖြစ်စေပါသည်။

**'Hedging' ဆိုတာ ဘာလဲ**

ရင်းနှီးမြှုပ်နှံသူများသည် စွန့်စားမှုအတွက် အကာအကွယ်မဲ့ခြင်းကို လျော့နည်းသက်သာစေရန်အတွက် Hedging (ကြိုတင်ရောင်းဝယ်ခြင်း) ကို အသုံးပြုကြပါသည်။ နောက်ထပ် ရင်းနှီးမြှုပ်နှံမှုတစ်ခု၏ စွန့်စားမှုကို လျော့နည်းသက်သာစေသည့် ရင်းနှီးမြှုပ်နှံမှုတစ်ခုကို ပြုလုပ်ခြင်းဖြင့် ကြိုတင်ရောင်းဝယ်ခြင်းကို ဆောင်ရွက်ကြပါသည်။

'ထေမိစေသည့်စွန့်စားမှု' ဟုလည်း သိထားကြသည့် ကြိုတင်ရောင်းဝယ်ခြင်းသည် အလားအလာရှိသည့် ဆုံးရှုံးမှုများမှ ရင်းနှီးမြှုပ်နှံသူတစ်ဦးကို ကာကွယ်ပေးပါသည်။ သို့ရာတွင် ၎င်းသည် အလားအလာရှိသော အကျိုးအမြတ်များကိုလည်း အကန့်အသတ်ဖြစ်စေပါသည်။ ဥပမာအားဖြင့် ရင်းနှီးမြှုပ်နှံသူတစ်ဦးသည် စတော့ကိုဝယ်ယူလျှင် ၎င်းသည် ကြိုတင်ရောင်းဝယ်သော အစုရှယ်ယာစာချုပ်များ (Futures) ကိုလည်း ဝယ်ယူနိုင်ပါသည်။ ၎င်းစာချုပ်သည် ရင်းနှီးမြှုပ်နှံသူအား သတ်မှတ်ထားသည့်ရက်တွင် သတ်မှတ်ထားသည့်ဈေးနှုန်းဖြင့် စတော့ကို ရောင်းရန် ခွင့်ပြုပေးမည် ဖြစ်ပါသည်။

ဤနည်းဖြင့် စတော့ဈေးနှုန်းများ ထူးထူးခြားခြားကျဆင်းလျှင် ထိုသို့ကျဆင်းခြင်းသည် ၎င်း၏ ဆုံးရှုံးမည့်စွန့်စားမှုကို လျော့နည်းစေပါသည်။ သို့ရာတွင် ဈေးနှုန်းများ အကြီးအကျယ်မြင့်တက်ပါက ၎င်းရနိုင်သည့်အမြတ်အစွန်းများကိုလည်း ကြိုတင်ရောင်းဝယ်ခြင်းက ကန့်သတ်ထားပါသည်။ ပြည်ပသို့ကုန်ပို့သူများက ငွေကြေးတန်ဖိုး အတက်အကျများအတွက် ကြိုတင်ရောင်းဝယ်ခြင်းကို ပြုလုပ်ကြ၍ ဘဏ်များက ချေးငွေပေးဆပ်ရန် ပျက်ကွက်မှုများအတွက် ကြိုတင်ရောင်းဝယ်ခြင်းကို

ပြုလုပ်ကြပြီး လေကြောင်းကုမ္ပဏီများက လောင်စာဆီဈေးနှုန်း မြင့်တက် မှုများအတွက် ကြိုတင်ရောင်းဝယ်မှု ပြုလုပ်ကြပါသည်။

ကြိုတင်ရောင်းဝယ်ရန်အတွက် ကြိုတင်ရောင်းဝယ်သော အစုရှယ်ယာ (Futures) များ၊ ဖလှယ်မှု (Swap) များ၊ သတ်မှတ်ရက်တွင် သတ်မှတ်ဈေးဖြင့် ရောင်းဝယ်ခွင့် (Option) များ၊ အာမခံပေါ်လစီများနှင့် လက်ဝယ်မရှိခင် ကြိုတင်ရောင်းခြင်း (Shortselling) များ အစရှိသည့် ငွေကြေးဆိုင်ရာစာချုပ်စာတမ်းနှင့် နည်းလမ်းအမျိုးအစားပေါင်းများစွာကို အသုံးပြုကြပါသည်။

## 'ကုန်စည်ဈေးကွက်' ဆိုတာ ဘာလဲ

ကုန်စည်ဈေးကွက် (Commodity market) များသည် ကြိုတင်ရောင်းဝယ်သော အစုရှယ်ယာ (Futures) များကို ရေနံ၊ ကြေးနီ၊ ရွှေ၊ ပြောင်း၊ ကော်ဖီနှင့် ကိုကိုးကဲ့သို့ ကုန်ကြမ်း၊ သို့မဟုတ် အဓိကကုန်ပစ္စည်းများဖြင့် ရောင်းဝယ်သည့်ဈေးကွက်များ ဖြစ်ပါသည်။ သင်ဆန္ဒရှိသော အချိန်တိုင်းတွင် သင်ဆန္ဒရှိသောအရာတိုင်းကို ရောင်းဝယ်ခြင်းမပြုနိုင်ပါ။ ကုန်စည်ဈေးကွက်ရောင်းဝယ်မှုသည် ကုန်စည်ဒိုင်များတွင် ဖြစ်ပွားပြီး ၎င်းကုန်စည်ဒိုင်များကို စည်းမျဉ်းစည်းကမ်းဖြင့် ထိန်းသိမ်းထားပါသည်။

ကုန်စည်ဒိုင်များသည် ရောင်းဝယ်ရေးအတွက် စံအရေအတွက်များကို သတ်မှတ်ပေးပြီး ကုန်စည်သည် စာရင်းတစ်ခုထဲတွင် ပါဝင်ရမည် ဖြစ်ပါသည်။ ကမ္ဘာတစ်ဝှမ်းလုံးတွင် ကုန်စည်ဒိုင်တစ်ရာခန့် ရောင်းဝယ်နေကြပါသည်။ ရောင်းဝယ်ခြင်းသည် ရေနံ၊ သို့မဟုတ် ပြောင်းကို အမှန်တကယ်ပေးပို့နေသော တစ်စုံတစ်ဦးထံတွင် အဆုံးသတ်သွားလေ့မရှိပါ။ လူအများသည် များသောအားဖြင့် သဘောတူစာချုပ်များကို ရောင်းဝယ်ကြပါသည်၊ သို့မဟုတ် ငွေပြန်ပေါ်အောင် လျှော့ဈေးဖြင့် ရောင်းထုတ်ကြပါသည်။ တစ်နည်းအားဖြင့် ကြိုတင်၍ငွေရအောင် လုပ်ကြပါသည်။

ကုန်စည်ကြိုတင်ဝယ်ရောင်းခြင်းများသည် ဈေးနှုန်းကြိုတင်

ခန့်မှန်းခြင်းများကို လူသိရှင်ကြားဖြစ်စေသဖြင့် စီးပွားရေးကို ထိခိုက်ပါသည်။ ရေနံဈေးနှုန်းများမြင့်တက်သောအခါ ကုန်စည်နှင့် ဝန်ဆောင်မှုဈေးနှုန်းများလည်း မြင့်တက်ကြပါသည်။ အမြောက်အမြား ကူးသန်းရောင်းဝယ်ခြင်းသည် ဈေးနှုန်းများကိုပင်လျှင် ပြောင်းလဲနိုင်ပါသည်။ ပေါက်ဈေးထက်ပို၍ ကြိုတင်ရောင်းဝယ်သော ရေနံအများအပြားကို သင်ဝယ်ယူလျှင် ထုတ်လုပ်သူများသည် နောင်အခါတွင် ၎င်းတို့၏ ရေနံအတွက် ငွေပိုရရန်အတွက် သိုလှောင်စုဆောင်းကြပါသည်။

စွန့်စားရောင်းဝယ်ခြင်းသည် မြေကြီးလက်ခတ်မလွဲနိုင်သော ဟောကိန်းတစ်ခု ဖြစ်လာပါသည်။ သိုလှောင်စုဆောင်းခြင်းသည် ရေနံရောင်းလိုအားကို လျော့နည်းစေပြီး ရေနံဈေးနှုန်း မြင့်တက်ပါသည်။

**'ငွေကြေးဈေးကွက်' ဆိုတာ ဘာလဲ**

ငွေကြေးဈေးကွက် (Money Market) များသည် တစ်နှစ်မပြည့်မီသက်တမ်းစေ့မည့် အပ်ငွေလက်မှတ်များ၊ သို့မဟုတ် အစိုးရငွေချေးစာချုပ်များကဲ့သို့ ရေတိုကြွေးမြီစာချုပ်စာတမ်းများဖြင့် ရောင်းဝယ်ကြပါသည်။ ငွေကြေးဈေးကွက်ရင်းနှီးမြှုပ်နှံမှုများသည် အလွန်ရှေးရိုးဆန်ပြီး လုံခြုံမှုရှိပါသည်။ သင်၏ ငွေကြေးဆုံးရှုံးမည့် စွန့်စားမှုမရှိသဖြင့် အမြတ်အစွန်းနည်းပါသည်။

သို့ရာတွင် ငွေကိုအချိန်မရွေး ပြန်ထုတ်နိုင်သဖြင့် ၎င်းသည် အဖွဲ့အစည်းကြီးများနှင့် အစိုးရများအတွက် ရေတိုငွေကြေးလိုအပ်ချက်များကို စီမံခန့်ခွဲရန် အသုံးဝင်ပါသည်။ ငွေကြေးဈေးကွက် စာချုပ်စာတမ်းအများစုသည် စတော့ဈေးကွက်နှင့်မတူဘဲ ပမာဏများပြားစွာရောင်းဝယ်ကြသောကြောင့် ရောင်းဝယ်မှုအများစုကို ဘဏ်များမှတစ်ဆင့်ဆောင်ရွက်ကြပါသည်။ သို့ရာတွင် သာမန်ရင်းနှီးမြှုပ်နှံသူများအနေဖြင့် ငွေကြေးဈေးကွက်ကုမ္ပဏီတစ်ခု၏ ရှယ်ယာများကို ဝယ်ယူနိုင်ကြပါသည်။ ၎င်းကုမ္ပဏီတွင် ငွေကြေးဈေးကွက် အစုရှယ်ယာလက်မှတ်များကို ဝယ်ယူရန် ထောင်နှင့်ချီသော ရင်းနှီးမြှုပ်နှံသူများ၏ငွေကြေးကို စုစည်း

ထားပါသည်။ ငွေကို ပို၍များများအပ်လေ အတိုးနှုန်း ပို၍မြင့်မားလေဖြစ်သောကြောင့် ငွေကြေးဈေးကွက်များသည် ချမ်းသာသောရင်းနှီးမြှုပ်နှံသူများအတွက် ပို၍ကောင်းပါသည်။

**'Mutual Fund' ဆိုတာ ဘာလဲ**

Mutual Fund (ရင်းနှီးငွေမြှုပ်နှံပေးသည့်ကုမ္ပဏီ) များသည် ရင်းနှီးမြှုပ်နှံသူများစွာအတွက် စတော့များ၊ ငွေချေးစာချုပ်များနှင့် အခြားရင်းနှီးမြှုပ်နှံမှုဆိုင်ရာစာချုပ်စာတမ်းများကို ဝယ်ယူရန်တွက် ၎င်းတို့၏ ငွေများကိုစုစည်းရန် နည်းလမ်းတစ်ခု ဖြစ်ပါသည်။ စတော့များကဲ့သို့ပင် ရင်းနှီးမြှုပ်နှံသူများသည် Mutual Fund ရှယ်ယာများကို ရောင်းဝယ်၍ နှစ်စဉ်အစုပေါ် အမြတ်များကို ရကြပါသည်။ သို့ရာတွင် အစုရှယ်ယာများသည် ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ စာချုပ်စာတမ်းအချို့ကို ကိုယ်စားပြုပါသည်။

Mutual Fund အများစုတွင် ကျွမ်းကျင်သော ကုမ္ပဏီမန်နေဂျာတစ်ယောက် ရှိပါသည်။ တိုးတက်မှုကို အကောင်းဆုံးဖြစ်စေရန်အတွက် မည်သည့်ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ စာချုပ်စာတမ်းများကို ဝယ်ယူရောင်းချမည်ကို ၎င်းက ဆုံးဖြတ်ပါသည်။ Mutual Fund များသည် ရည်မှန်းချက်အမျိုးမျိုးကို ရရှိရန်အတွက် စွန့်စားမှုအဆင့်အမျိုးမျိုးဖြင့် ပြည်တွင်း၊ သို့မဟုတ် ပြည်ပရှိ စတော့များ၊ ငွေချေးစာချုပ်များ၊ သို့မဟုတ် ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ စာချုပ်စာတမ်းများအထဲတွင် ရင်းနှီးမြှုပ်နှံထားနိုင်ပါသည်။ ရင်းနှီးမြှုပ်နှံသူများသည် မန်နေဂျာများနှင့် စီမံအုပ်ချုပ်မှု စရိတ်များကို ပေးရန်အတွက် အသုံးစရိတ်အချိုးတစ်ခုကို ကျခံရပါသည်။ ၎င်းအသုံးစရိတ်သည် များသောအားဖြင့် ကုမ္ပဏီ၏ ရရန်ပိုင်ခွင့်များ၏ ၀.၅ မှ ၁.၅ ရာခိုင်နှုန်းအထိရှိပါသည်။

အတိတ်မှဆောင်ရွက်ချက်များသည် အနာဂတ်ရလဒ်များကို ကြိုတင်ခန့်မှန်းပေးခြင်းမရှိပါ။ အတိတ်က အကျိုးအမြတ်ရရှိခဲ့သော Mutual Fund များသည် အနာဂတ်တွင် အဆင်ပြေချင်မှပြေမည်



ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်မှု ကုန်ကျစရိတ်များကို မျှဝေကျခံပြီး ကျွမ်းကျင်သော မန်နေဂျာတစ်ဦးက တာဝန်ခံဆောင်ရွက်နေသဖြင့် လူအများစုသည် စတော့များတွင် တိုက်ရိုက်ရင်းနှီးမြှုပ်နှံမည့်အစား Mutual Fund များတွင်ရင်းနှီးမြှုပ်နှံကြပါသည်။

**'Hedge Fund' ဆိုတာ ဘာလဲ**

Hedge Fund (ကြိုတင်ဝယ် ကြိုတင်ရောင်းကုမ္ပဏီ) များသည် ချမ်းသာသူများအတွက် Mutual Fund (ရင်းနှီးငွေများမြှုပ်နှံပေးသည့် ကုမ္ပဏီ) များ ဖြစ်ပါသည်။ အမြောက်အမြားဝယ်ယူရန်အတွက် သင့်ထံတွင် အနည်းဆုံး အသားတင်တန်ဖိုးဒေါ်လာ ၁ သန်းနှင့် ခိုင်မာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အသိပညာရှိရန် လိုအပ်ပါသည်။

Derivative များနှင့် Leverage အသုံးပြုခြင်းအပေါ် ပို၍နည်းသောကန့်သတ်ချက်များဖြင့် ၎င်းတို့ကို စည်းကမ်းထိန်းသိမ်းမှု လျှော့ပေါ့ထားပါသည်။ ၎င်းတို့များစွာမှာ အခွန်ရှောင်ရန် offshore (အခွန်လွတ်မြောက်နယ်မြေ) များ ဖြစ်ကြပါသည်။ Hedge Fund များသည် ဈေးကွက်ကျဆင်းနေချိန်၌ပင်လျှင် ငွေရှာရန်ကြိုးစားကြပြီး ထိုရည်မှန်းချက်ကို ရရှိရန်အတွက် ရှုပ်ထွေးသော ငွေကြေးနည်းလမ်းများကို အသုံးပြုကြပါသည်။

၎င်းနည်းလမ်းများအနက်မှ တစ်ခုမှာ ချေးငွေဖြင့် ရင်းနှီးမြှုပ်နှံခြင်း (Leverage)၊ တစ်နည်းအားဖြင့် ကုမ္ပဏီကို ပိုမိုကြီးမားအောင် လုပ်ရန်အတွက် ငွေချေးယူခြင်း ဖြစ်ပါသည်။ ဤသို့ဆောင်ရွက်ခြင်းသည် အကျိုးအမြတ် ပို၍များပြားသော်လည်း ဆုံးရှုံးမှုလည်း ပို၍များပြားနိုင်သည့်အဓိပ္ပာယ် ဖြစ်ပါသည်။ Hedge Fund များသည် ချေးငွေဖြင့် ရင်းနှီးမြှုပ်နှံခြင်းကို လွန်စွာအသုံးပြုကြသောကြောင့် အခြားကုမ္ပဏီများထက် စွန့်စားမှုပို၍များပြီး ၎င်းတို့သည် ပွင့်လင်းမြင်သာမှုမရှိဟု ဝေဖန်သူများက ပြောကြပါသည်။ အကျိုးအမြတ်သည် မန်နေဂျာ၏ ကျွမ်းကျင်မှုအပေါ်တွင် ကြီးမားစွာမှီခိုအားထားသည့်အတွက် များသော

အားဖြင့် မန်နေဂျာကို ဆောင်ရွက်မှုလုပ်ခအဖြစ် အကျိုးအမြတ်၏ ၁၀ ရာခိုင်နှုန်းမှ ၂၅ ရာခိုင်နှုန်းအထိ ပေးကြပါသည်။

**'Blue-Chip ကုမ္ပဏီ' ဆိုတာဘာလဲ**

စတော့များကို ဝယ်ယူတော့မည်ဆိုလျှင် များသောအားဖြင့် သင်တတ်နိုင်ပါက Blue-Chip ကုမ္ပဏီထဲတွင် ရင်းနှီးမြှုပ်နှံခြင်းက ကောင်းပါသည်။ Blue-Chip ကုမ္ပဏီများသည် အရွယ်အစားကြီးမားပြီး အောင်မြင်၍ အကျိုးအမြတ်ရရှိမှုတွင် ကောင်းသောမှတ်တမ်းနှင့် အရည်အသွေးမြင့်ကုန်ပစ္စည်းများအတွက် ကျော်ကြားမှုရှိသော ကုမ္ပဏီများ ဖြစ်ကြပါသည်။

၎င်းတို့သည် ယေဘုယျအားဖြင့် အချိန်ကြာမြင့်စွာ လုပ်ငန်းလုပ်ကိုင်ခဲ့ကြပြီး များသောအားဖြင့် နိုင်ငံတကာတွင် လုပ်ကိုင်နေသကဲ့သို့ ခက်ခဲသောကာလများကို ဖြတ်ကျော်ပြီး ထိပ်တန်းသို့ရောက်နေသော ကုမ္ပဏီများ ဖြစ်ကြပါသည်။ အမေရိကန်နိုင်ငံရှိ စံနမူနာဖြစ်သော Blue-Chip ကုမ္ပဏီများမှာ IBM ၊ McDonald's ၊ Coca Cola ၊ Exxon Mobil ၊ Walt Disney ၊ Kraft ၊ AT&T နှင့် Microsoft ကုမ္ပဏီများ ဖြစ်ကြပါသည်။

Blue-Chip ဟူသော ဤအမည်သည် လောင်းကစားခြင်းမှ လာခဲ့ပါသည်။ အပြာရောင်တိုကင်ပြားများသည် ဖဲကစားရာတွင် တန်ဖိုးအကြီးဆုံးတိုကင်ပြားများဖြစ်သောကြောင့် Blue Chips ကုမ္ပဏီ၏ စတော့များသည် တန်ဖိုးအများဆုံးရင်းနှီးမြှုပ်နှံမှု ဖြစ်ပါသည်။ Blue-Chip ကုမ္ပဏီများသည် ကုမ္ပဏီငယ်များ၊ ကုမ္ပဏီအသစ်များထက် စွန့်စားမှုပို၍နည်းသည်ဟု ယူဆခြင်းခံရသဖြင့် ၎င်းတို့၏စတော့များကို ဈေးနှုန်းမြင့်မားစွာဖြင့်ရောင်း၍ရပါသည်။ သို့ရာတွင် Blue-Chip ကုမ္ပဏီများ၏ လုပ်ငန်းဆောင်ရွက်မှုများသည်လည်း ဆိုးဝါးသွားနိုင်ပါသေးသည်။ Blue-Chip စတော့တစ်ခုအဖြစ် နှစ်ပေါင်း ၈၀ ရပ်တည်ခဲ့သော General Motors ကုမ္ပဏီသည် ဒေဝါလီခံသွားခဲ့ရပါသည်။

**'Dow Jones' ဆိုတာဘာလဲ**

Dow Jones လုပ်ငန်းပျမ်းမျှဆိုသည်မှာ အမေရိကန် Blue-Chip ကုမ္ပဏီ ၃၀ ၏ ပျမ်းမျှစတော့ဈေးနှုန်း ဖြစ်ပါသည်။ ၎င်းသည် စီးပွားရေး၏ ယေဘုယျအခြေအနေကို တွက်ချက်ဖော်ထုတ်ရန် အသုံးပြုသောလက်နက်တစ်ခုဖြစ်သည့် ဈေးကွက်အညွှန်းကိန်းတစ်ခု၏ နမူနာတစ်ခု ဖြစ်ပါသည်။

ဈေးကွက်အညွှန်းကိန်းတစ်ခုစီသည် စတော့များ၊ ငွေချေးစာချုပ်များ၊ သို့မဟုတ် ကြိုတင်ရောင်းဝယ်သော အစုရှယ်ယာများကဲ့သို့ စာချုပ်စာတမ်းများ၏ အရေအတွက်ကို ခြေရာခံပါသည်။ အချို့ဈေးကွက်အညွှန်းကိန်းများသည် စွမ်းအင်ကဲ့သို့ တိကျသောလုပ်ငန်းတစ်ခု၏ နောက်သို့လိုက်ပါသည်။ The Dow ခေါ် ဈေးကွက်အညွှန်းကိန်းသည် AT&T ၊ Bank of America ၊ Microsoft နှင့် McDonald's အပါအဝင် ထိပ်တန်းကုမ္ပဏီကြီး ၃၀ ၏ စတော့ဈေးနှုန်းများကို ခြေရာခံထားပါသည်။

အခြားသော အညွှန်းကိန်းများထက် The Dow ကို ပို၍ရည်ညွှန်းကိုးကားကြပါသည်။ ၎င်းအညွှန်းကိန်း မြင့်တက်သွားလျှင် စီးပွားရေးအခြေအနေ ကောင်းနေသည်ကို ညွှန်ပြပါသည်။ ကျဆင်းသွားခြင်းသည် မကောင်းသောလက္ခဏာတစ်ခု ဖြစ်ပါသည်။ ပျမ်းမျှကို ဒဿမကိန်းများဖြင့် ရည်ညွှန်းကိုးကားဖော်ပြပြီး ဒေါ်လာကို ဒဿမ ၈ လုံးဖြင့် ဖော်ပြပါသည်။ ကုမ္ပဏီများက စတော့များ ပို၍ထုတ်လုပ်သောအခါ ညှိနှိုင်းပေးသော ပုံသေနည်းတစ်ခုကို အသုံးပြုပါသည်။ ဤပျမ်းမျှကိုသိထားခြင်းသည် ရင်းနှီးမြှုပ်နှံသူများအတွက် အသုံးဝင်ပါသည်။ ၎င်းတို့အနေဖြင့် ရင်းနှီးမြှုပ်နှံမှု ဆုံးဖြတ်ချက်များကိုချရန်အတွက် သတ်မှတ်ထားသောစတော့များကို ဤပျမ်းမျှနှင့် နှိုင်းယှဉ်ကြည့်နိုင်ပါသည်။

**'NASDAQ' ဆိုတာဘာလဲ**

NASDAQ ကို ၁၉၇၂ ခုနှစ်တွင် ဖန်တီးခဲ့ပါသည်။ ၎င်းသည်

ကမ္ဘာပေါ်တွင် အီလက်ထရောနစ်စနစ်ကို အသုံးပြုသည့် ပထမဆုံး စတော့ရှယ်ယာဒိုင်ဖြစ်၍ ၎င်းတွင် မည်သည့်အချိန်ကမှ အကောင်အထည်ဖြင့် ပစ္စည်းရောင်းဝယ်သောနေရာမရှိခဲ့ပါ။ NASDAQ သည် အမြဲတစေ ပြောင်းလဲမှုရှိနေသော စတော့ဈေးနှုန်းအညွှန်းများကိုပေးပြီး ဈေးနှုန်းများတည့်သည့်အခါ ကွန်ပျူတာကိုအသုံးပြု၍ ရောင်းသူနှင့် ဝယ်သူများကို ချိတ်ဆက်ပေးပါသည်။

NASDAQ ၏ ရောင်းဝယ်သောပမာဏသည် ကမ္ဘာပေါ်ရှိ အခြားစတော့ဒိုင်အားလုံးထက် ပိုများပြီး စုစုပေါင်းကုမ္ပဏီ ၃၇၀၀ ခန့်က ရောင်းဝယ်ရန် စာရင်းသွင်းထားပါသည်။ NASDAQ သည် အဆင့်မြင့် နည်းပညာစတော့များ၊ ကုမ္ပဏီအသစ်များနှင့် မကြာခဏဆက်စပ်နေပြီး အခြားစတော့ဒိုင်များတွင် စာရင်းမဝင်သော ဒိုင်ပြင်ပစတော့များ ကိုလည်း အရောင်းအဝယ်များကို ပြုလုပ်ပါသည်။

NASDAQ သည် အချိန်ပိုရောင်းဝယ်ရေးကိုလည်း ပြုလုပ်ပေးပါသည်။ ဤသို့ပြုလုပ်ပေးခြင်းသည် သတင်းများကို လျင်မြန်စွာ တုံ့ပြန်ရန် ရင်းနှီးမြှုပ်နှံသူများကို ကူညီပေးပါသည်။ သို့ရာတွင် အချိန်ပို ဈေးနှုန်းများသည် ပို၍ပြောင်းလဲလွယ်ပါသည်။ NASDAQ တွင် ရောင်း ဝယ်သောစတော့များကို ခြေရာခံသည့် NASDAQ အမျိုးပေါင်းစုံ အညွှန်းကိန်းကို ယေဘုယျအားဖြင့် နည်းပညာကဏ္ဍ၏ အခြေအနေကို ခြေရာခံရန် အသုံးပြုပါသည်။

## 'Index Fund' ဆိုတာဘာလဲ

Index Fund (အညွှန်းကိန်းကုမ္ပဏီ) ဆိုသည်မှာ Dow Jones နှင့် S&P 500 ကဲ့သို့ ဈေးကွက်အညွှန်းကိန်းတစ်ခုကို လိုက်နာသော ရင်းနှီးငွေမြှုပ်နှံပေးသည့် ကုမ္ပဏီပုံစံတစ်မျိုး ဖြစ်ပါသည်။ Index Fund များသည် ဈေးကွက်ကိုထိန်းချုပ်ရန်ကြိုးစားသည့် တက်ကြွစွာ စီမံခန့်ခွဲသော ရင်းနှီးငွေမြှုပ်နှံပေးသည့်ကုမ္ပဏီများနှင့်မတူဘဲ ဈေးကွက်၏ ဆောင်ရွက်မှုပုံစံကို မြင်ရရုံသက်သက်သာ ကြိုးစားပါသည်။

Index Fund များသည် စျေးကွက်အညွှန်းကိန်းတစ်ခုနှင့် တူညီသောစတော့များတွင် တူညီသောအချိုးအစားဖြင့် ရင်းနှီးမြှုပ်နှံပါသည်။ စျေးကွက်ပြောင်းလဲသွားသောအခါ ဤခွဲဝေပေးထားသည့်ပမာဏများသည် တစ်ညီတည်း ဖြစ်နေပါသည်။ ဤတက်ကြွမှုမှုနည်းသော စီမံခန့်ခွဲမှုသည် စျေးကြီးသောသရုပ်ခွဲစိစစ်သူများကိုမလိုအပ်သကဲ့သို့ ရောင်းဝယ်သည့်အကြိမ်လည်း ပို၍နည်းသဖြင့် ဤစီမံခန့်ခွဲမှုတွင် အထွေထွေကုန်ကျစရိတ်များလည်း များစွာသက်သာသည့်သဘော ရှိပါသည်။ ရလဒ်သည် အဘယ်နည်း။ တက်ကြွစွာစီမံခန့်ခွဲသော ကုမ္ပဏီများက စျေးကွက်ကို ထိန်းချုပ်ရန်ကြိုးစားကြသည့်တိုင် ရေရှည်တွင် များသောအားဖြင့် Index Fund များက တက်ကြွစွာစီမံခန့်ခွဲသော ကုမ္ပဏီများထက် သာလွန်သွားကြပါသည်။

## 'Credit Rating' ဆိုတာဘာလဲ

Credit Rating (အကြွေးပေးရန် စိတ်ချရမှုအကဲဖြတ်ချက်) များသည် ငွေချေးစာချုပ်ကဲ့သို့ ကြွေးမြီများကို ထုတ်ပေးသော အစိုးရများနှင့် စီးပွားရေးလုပ်ငန်းများကို အကဲဖြတ်၍ ၎င်းတို့အနေဖြင့် ထိုကြွေးမြီများကို မည်ကဲ့သို့ ပြန်လည်ပေးဆပ်နိုင်ဖွယ်ရှိသည်ကို အဆင့်သတ်မှတ်ပေးပါသည်။ အဆင့်သတ်မှတ်ချက်များသည် ဘဏ္ဍာရေးအရ အလွန်တည်ငြိမ်မှုရှိသော ကုမ္ပဏီများအတွက် AAA မှ ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန်ပျက်ကွက်သော ကုမ္ပဏီများအတွက် D အထိ ရှိပါသည်။ ရင်းနှီးမြှုပ်နှံသူများသည် ဆုံးဖြတ်ချက်များချမှတ်ရန်အတွက် Credit Rating အပေါ်တွင် မှီခိုအားထားကြသဖြင့် လူအများကို သင်၏လုပ်ငန်းထဲတွင် ရင်းနှီးမြှုပ်နှံစေလိုပါက ကောင်းမွန်သော အဆင့်သတ်မှတ်ချက်သည် အလွန်အရေးကြီးပါသည်။

အဆင့်သတ်မှတ်ချက်မြင့်မားသော ကုမ္ပဏီများသည် ချေးငွေကိုပြန်လည်ပေးဆပ်လိမ့်မည်ဟု ယုံကြည်စိတ်ချခြင်းခံရသောကြောင့် ချေးငွေအပေါ်တွင် အတိုးငွေကို လျှော့၍ပေးကြပါသည်။ အဆင့်သတ်

မှတ်ခြင်းများကို Moody's ၊ သို့မဟုတ် Standard & Poor's ကဲ့သို့သော အဆင့်သတ်မှတ်သည့် အေဂျင်စီများက ဆောင်ရွက်ကြပြီး ၎င်းအေဂျင်စီများသည် အမှုဆောင်များကို တွေ့ဆုံမေးမြန်းခြင်း၊ ကုမ္ပဏီ၏ အချက်အလက်များကို ပြန်လည်ဆန်းစစ်သုံးသပ်ခြင်းများကို ဆောင်ရွက်ပါသည်။ အေဂျင်စီများသည် မှားယွင်းတတ်ကြပါသည်။ စွန့်စားမှုများသော အပေါင်ပစ္စည်း အခြေခံစာချုပ်စာတမ်းများကို ၎င်းတို့က AAA အဆင့်သတ်မှတ်ပေးခဲ့သဖြင့် ၂၀၀၇-၀၉ ငွေကြေးအကျပ်အတည်းကြီး ဖြစ်ပေါ်အောင် ၎င်းတို့က ပံ့ပိုးပေးခဲ့ကြပါသည်။

**'အစုရှယ်ယာရှင်တန်ဖိုး' ဆိုတာဘာလဲ**

စည်းစနစ်အရ အစုရှယ်ယာရှင်တန်ဖိုး (Shareholder Value) သည် အစုရှယ်ယာရှင်တစ်ယောက်က ကုမ္ပဏီတစ်ခုတွင် ရင်းနှီးမြှုပ်နှံမှုမှ ရရှိသောတန်ဖိုး ဖြစ်သည်။ တစ်နည်းအားဖြင့် စတော့ရှယ်ယာအပေါ်တွင် ပြန်လည်ရရှိသော အမြတ်ဖြစ်ပါသည်။ သို့ရာတွင် ပို၍ကျယ်ပြန့်စွာ ပြောမည်ဆိုပါက ဤဝေါဟာရသည် ၁၉၈၀ ပြည့်လွန်နှစ်များက ပေါ်ထွက်ခဲ့သော စီးပွားရေးလုပ်ငန်းစီမံခန့်ခွဲမှုဒဿန၊ သို့မဟုတ် ကော်ပိုရိတ်အုပ်ချုပ်မှုကို ကိုယ်စားပြုပါသည်။ အစုရှယ်ယာရှင်တန်ဖိုး အယူအဆအရ ကုမ္ပဏီတစ်ခုတွင် မြင့်မားသော အစုရှယ်ယာရှင်တန်ဖိုးရှိပြီး အစုရှယ်ယာရှင်များသို့ အစုပေါ်အမြတ်ငွေအများအပြား ပြန်လည် ထုတ်ပေးလျှင် ၎င်းကုမ္ပဏီသည် အောင်မြင်ပါသည်။

အစုရှယ်ယာရှင်များကို အကျိုးခံစားခွင့်ပေးခြင်းအပေါ်တွင် ဖောင်းပေးခြင်းသည် ကုမ္ပဏီများက ၎င်းတို့၏ အကျိုးအမြတ်များကို ပစ္စည်းကိရိယာများ၊ ဝန်ထမ်းများထံတွင် ပြန်လည်ရင်းနှီးမြှုပ်နှံရမည့်အစား အစုပေါ်အမြတ်များအဖြစ် ပြန်လည်ထုတ်ပေးပစ်သည်ဟု အဓိပ္ပာယ်ရပါသည်။ ခြုံ၍ကြည့်မည်ဆိုပါက အစုရှယ်ယာရှင်တန်ဖိုးကို လက်ခံကျင့်သုံးခြင်းအားဖြင့် ကုမ္ပဏီများသည် ၎င်းတို့၏ အကျိုးအမြတ်မဟာဗျူဟာကို 'ထိန်းသိမ်းထား၍ ပြန်လည်ရင်းနှီးမြှုပ်နှံခြင်း' မှ 'ကုန်ကျ

စရိတ်လျှော့ချ၍ ပြန်လည်ခွဲဝေပေးခြင်း' သို့ ပြောင်းလဲပစ်ခဲ့ပါသည်။

ဝေဖန်သူများက မကောင်းသောအပိုင်းကို ထောက်ပြကြပါသည်။ ကုမ္ပဏီများက ဝန်ထမ်းများကို လုပ်ခလျှော့၍ပေးလျှင် အစုရှယ်ယာရှင်များကို ပို၍ပေးနိုင်သဖြင့် လူအများကို ထိခိုက်စေခြင်းဖြင့် လူအနည်းငယ်ကို ချမ်းသာကြွယ်ဝစေခြင်းဖြစ်သည်ဟု ဆိုပါသည်။ အမှုဆောင်များကို လစာငွေများသာမက စတော့များကိုလည်း မကြာခဏပေးသောကြောင့် ၎င်းတို့အနေဖြင့် အစုရှယ်ယာရှင်တန်ဖိုးထံမှ အများဆုံးအကျိုးခံစားကြရသည်ဟုလည်း ဝေဖန်သူများက ထောက်ပြကြပါသည်။

**'Stock Option' ဆိုတာဘာလဲ**

Stock Option သည် ၎င်းတို့၏ ကုမ္ပဏီ၏စတော့များကို သတ်မှတ်ထားသောအချိန်တွင် သတ်မှတ်ထားသော ဈေးနှုန်းဖြင့် ဝယ်ယူရန် ဝန်ထမ်းများကိုပေးထားသော အခွင့်အရေး ဖြစ်ပါသည်။ စတော့များကိုဝယ်ယူရန် ၎င်းတို့အား ခွင့်မပြုမီ Stock Option များကို ဝန်ထမ်းများက ကိုင်ဆောင်ထားရမည့်အချိန်ကာလကို 'တရားဝင်အပ်နှင်းထားသောကာလ' ဟု ခေါ်ပါသည်။

စတော့ဈေးနှုန်းများဖြင့် တက်သွားလျှင် ဝန်ထမ်းများ အကျိုးခံစားရမည်ဖြစ်၍ Stock Option များက ၎င်းတို့ကို အလုပ်ပို၍ ကြိုးစားလုပ်ကိုင်ရန် မက်လုံးတစ်ခုကို ပေးသောကြောင့် ကုမ္ပဏီ၏တန်ဖိုးတိုးတက်လာမည် ဖြစ်ပါသည်။

သို့ရာတွင် dot-com ပြိုလဲမှုကာလအတွင်း အဖြစ်များခဲ့သည့် ပြဿနာတစ်ခုအနေဖြင့် ကုမ္ပဏီတစ်ခု ကောင်းစွာမဖြစ်မြောက်လျှင် Stock Option သည် အသုံးမဝင်ဘဲ၊ သို့မဟုတ် ရသင့်သလောက်မရဘဲ အဆုံးသတ်သွားနိုင်ပါသည်။ CEO များထံတွင် Stock Option များ ထောင်နှင့် သောင်းနှင့်ချီ၍ မကြာခဏရှိနေတတ်၍ အကျင့်ပျက်သော CEO များအနေဖြင့် အမြတ်ထုတ်ရန်အတွက် စတော့ဈေးနှုန်းများကို ဖောင်းပွအောင် တမင်ဖန်တီးမှု ပြုလုပ်နိုင်ပါသည်။

ဆင်းရဲချမ်းသာကွာဟမှုကျယ်ပြန့်ခြင်းအတွက် Stock Option များကို ပြစ်တင်ဝေဖန်ကြပါသည်။ ၁၉၇၀ ပြည့်လွန်နှစ်များမှစ၍ အမှန်တကယ် လုပ်ခများကျဆင်းခဲ့သော်လည်း CEO လစာများက လေးဆမြင့်တက်ခဲ့ပါသည်။

**'Short-selling' ဆိုတာဘာလဲ**

Short-selling (ကြိုတင်ရောင်းခြင်း) သည် စတော့ဈေးနှုန်းများ ကျဆင်းနေသောအချိန်၌ပင် ဈေးကွက်အတွင်းမှ အမြတ်ရရှိရန် နည်းလမ်းတစ်ခု ဖြစ်ပါသည်။ 'ကြိုတင်ရောင်းခြင်း' သည် 'ကြိုတင် ဝယ်ခြင်း' ၏ ဆန့်ကျင်ဘက် ဖြစ်ပါသည်။ 'ကြိုတင်ဝယ်ခြင်း' သည် ငွေချေးစာချုပ်ဈေးနှုန်းများ မြင့်တက်သွားလျှင် ရင်းနှီးမြှုပ်နှံသူအတွက် အကျိုးအမြတ်ရှိသည့် ရင်းနှီးမြှုပ်နှံရန် ပို၍အသုံးများသောနည်းလမ်း ဖြစ်ပါသည်။ Short-selling ပြုလုပ်ရန်အတွက် သင့်မှာမရှိသော စတော့ များကို သင်ကချေးယူပြီး ပေါက်ဈေးဖြင့် ရောင်းချပါသည်။ ဥပမာ- ရှယ်ယာတစ်ခုလျှင် ၁၀ ဒေါ်လာဈေးဖြင့် ရှယ်ယာ ၁၀၀ ကို ဒေါ်လာ ၁,၀၀၀ ဖြင့် ရောင်းပါသည်။

သင်ချေးယူထားသော စတော့များကို ပြန်လည်ပေးဆပ်ရန် အတွက် နောင်ကာလတစ်ခုတွင် သင်က စတော့များကို ပြန်လည်ဝယ်ယူ ပါသည်။ ရှယ်ယာတစ်ခုလျှင် ၇ ဒေါ်လာအထိ ကျသွားလျှင် သင့်အနေ ဖြင့် ဒေါ်လာ ၇၀၀ သာပေးရသဖြင့် အမြတ် ဒေါ်လာ ၃၀၀ ရရှိပါသည်။

၎င်းသည် အန္တရာယ်များပါသည်။ နောက်ဆုံးတွင် စတော့ ဈေးနှုန်းများ မြင့်တက်သွားပါက ၎င်းတို့ကို ပြန်လည်ဝယ်ယူရန် ငွေကြေး ပိုမိုကုန်ကျမည်ဖြစ်သဖြင့် ထိုအရောင်းအဝယ်၌ သင့်အနေဖြင့် ငွေကြေး ဆုံးရှုံးသွားမည် ဖြစ်ပါသည်။ 'shorting' ၊ သို့မဟုတ် 'going short' ဟူသော အသုံးအနှုန်းများသည် ရရန်ပိုင်ခွင့်များ၏ ဈေးနှုန်းများ ကျဆင်း သွားသောအခါ ရင်းနှီးမြှုပ်နှံသူအတွက် အကျိုးရှိသော Derivative စာချုပ်မှန်သမျှကိုလည်း ရည်ညွှန်းပါသည်။

**'ရင်းနှီးမြှုပ်နှံမှုဘဏ်' ဆိုတာဘာလဲ**

ရင်းနှီးမြှုပ်နှံမှုဘဏ် (Investment Bank) များသည် အပ်ငွေများကိုလက်ခံ၍ ချေးငွေများကိုထုတ်ပေးသော လက်လီဘဏ်များနှင့်မတူဘဲ စတော့များနှင့် Derivative များကဲ့သို့သော ငွေချေးစာချုပ်များကို ရောင်းချ၍စီမံခန့်ခွဲပါသည်။

ရင်းနှီးမြှုပ်နှံမှုဘဏ်များသည် ကုမ္ပဏီ၊ သို့မဟုတ် အစိုးရများကို ငွေစုဆောင်းနိုင်အောင် ကူညီရန်အတွက် ကြားမှဆက်သွယ်ပေးသူကဲ့သို့ ပြုမူဆောင်ရွက်ကြပါသည်။ ဤလုပ်ငန်းစဉ်ကို 'တစ်ဆင့်ခံအာမခံပေးခြင်း' (Underwriting) ဟု ခေါ်ပါသည်။ ဥပမာအားဖြင့် ပုဂ္ဂလိကကုမ္ပဏီတစ်ခုသည် စတော့များကိုရောင်းချလိုလျှင် ရင်းနှီးမြှုပ်နှံမှုဘဏ်သို့ ရောင်းချ နိုင်ပါသည်။ ထို့နောက် ၎င်းဘဏ်က အများပြည်သူသို့ ၎င်းစတော့များကို ရောင်းချပါသည်။

Goldman Sachs နှင့် J.P. Morgan Chase ဘဏ်များကဲ့သို့ ရင်းနှီးမြှုပ်နှံမှုဘဏ်များသည် စီးပွားရေးလုပ်ငန်းများ ပေါင်းစည်းမှု၊ ဝယ်ယူသိမ်းသွင်းမှုများနှင့် ပတ်သက်၍လည်း အကြံဉာဏ်များပေးပြီး အထမြောက်အောင် ကူညီဆောင်ရွက်ပေးပါသည်။ ၎င်းတို့သည် အဖွဲ့အစည်းများအတွက် ကြားခံလူအဖြစ်လည်း ဆောင်ရွက်ပေးနိုင်ပါသည်။

ကုမ္ပဏီတစ်ခုသည် ကောင်းမွန်သော အကျိုးအမြတ်များရရန်အတွက် ရင်းနှီးမြှုပ်နှံမှုဘဏ်ကို ၎င်း၏ရရန်ပိုင်ခွင့်များကို စီမံခန့်ခွဲရန် ခွင့်ပြုပေးပါသည်။ ရင်းနှီးမြှုပ်နှံမှုဘဏ်သည် အကျိုးအမြတ်တစ်ခုကို ရရှိရန်အတွက် ငွေကြေးဆိုင်ရာစာချုပ်စာတမ်းများကို ဝယ်ယူရောင်းချပါသည်။ ၎င်းစာချုပ်စာတမ်းများသည် လွန်စွာရှုပ်ထွေးမှုရှိပြီး အန္တရာယ်များသော Derivative များ မကြာခဏ ဖြစ်နေပါသည်။ ၂၀၀၇-၀၉ ငွေကြေးအကျပ်အတည်းသည် အဓိကအားဖြင့် ရင်းနှီးမြှုပ်နှံမှုဘဏ်များကြောင့် ဖြစ်ပေါ်ခဲ့ပါသည်။ ၎င်းဘဏ်များသည် ချေးငွေအများအပြားဖြင့် ရင်းနှီးမြှုပ်နှံခြင်းကို အသုံးပြုပြီး စွန့်စားမှုများသော စာချုပ်စာတမ်းများနှင့် ပတ်သက်၍ အကြီးအကျယ် စွန့်စားရောင်းဝယ်ခဲ့ပါသည်။

**'ကိုယ်ကျင့်သိက္ခာရင်းနှီးမြှုပ်နှံမှု' ဆိုတာဘာလဲ**

လူမှုရေးအရ တာဝန်ယူသောရင်းနှီးမြှုပ်နှံမှုဟုလည်း ခေါ်သော ကိုယ်ကျင့်သိက္ခာရင်းနှီးမြှုပ်နှံမှု (Ethical Investing) သည် ငွေကြေး အမြတ်အစွန်းအပြင် လူမှုရေးပိုင်းဆိုင်ရာ ကောင်းကျိုးကို အများဆုံး ရရှိရန် ရည်ရွယ်ပါသည်။

၎င်းကို နည်းလမ်းအချို့ဖြင့် ဆောင်ရွက်ပါသည်။ တစ်နည်းမှာ ကိုယ်ကျင့်သိက္ခာဆိုင်ရာ တာဝန်ရှိမှုကြောင့် မူးယစ်ဆေးဝါး၊ လက်နက် စသည့် အချို့သောရင်းနှီးမြှုပ်နှံမှုများကို ရှောင်ကြဉ်သည့် မကောင်းမှုကို ကာကွယ်သောနည်းလမ်း ဖြစ်ပါသည်။ ကိုယ်ကျင့်သိက္ခာရင်းနှီးမြှုပ်နှံ မှုသည် ကိုယ်ကျင့်သိက္ခာဆိုင်ရာ အလေးထားရန်ကိစ္စများကြောင့် ရင်းနှီး မြှုပ်နှံမှု အစုစုထဲမှ ရင်းနှီးမြှုပ်နှံမှုများကို ထုတ်ပစ်သည့် ဖယ်ထုတ်သည့် ပုံစံလည်း ရှိပါသည်။

သမားရိုးကျမဟုတ်သော စွမ်းအင်နှင့် စိမ်းလန်းစိုပြည်ရေး လုပ်ငန်းကဲ့သို့ ကောင်းသောအရာများကို ဆောင်ရွက်နေသောကုမ္ပဏီ များတွင် လူအများက ရင်းနှီးမြှုပ်နှံခြင်းသည် အပြုသဘောဆောင်သော ရင်းနှီးမြှုပ်နှံမှု ဖြစ်ပါသည်။ ကိုယ်ကျင့်သိက္ခာရင်းနှီးမြှုပ်နှံမှုသည် ရေတိုနှင့် ရေရှည်ကာလနှစ်ခုစလုံးတွင် ကောင်းသောအကျိုးအမြတ်များကို ရရှိ သည်ဟု ထောက်ခံအားပေးသူများက ပြောကြပါသည်။ ကိုယ်ကျင့်တရား အတွက် ကြွယ်ဝချမ်းသာမှုကို စွန့်လွှတ်ရန်မဟုတ်ပါ။

အဓိကရင်းနှီးမြှုပ်နှံမှုအဖွဲ့အစည်းအများစုသည် 'ကိုယ်ကျင့် တရားနှင့်ညီသော' ရန်ပုံငွေတစ်ခုကို ပေးပါသည်။ သို့ရာတွင် ဤရန်ပုံငွေ များသည် အမှန်တကယ်တွင် ကိုယ်ကျင့်သိက္ခာနှင့် မည်မျှညီညွတ်သည် ဆိုခြင်းမှာ များစွာဆွေးနွေးငြင်းခုံစရာ ဖြစ်နေပါသည်။

## (၆)
## စီးပွားရေးကောင်းခြင်းနှင့် စီးပွားရေးကျဆင်းခြင်း

လွတ်လပ်သော ဈေးကွက်စီးပွားရေးတစ်ခုတွင် ဈေးနှုန်းများကို ၎င်းတို့၏အဆင့်များကို ၎င်းတို့ဘာသာ ရှာဖွေတွေ့ရှိရန် ခွင့်ပြုထားပါသည်။ ဤသို့ခွင့်ပြုထားခြင်းသည် သင့်ထံ၌ စွန့်စားရင်းနှီးမြှုပ်နှံမှုပူဖောင်း မကြာခဏရှိနေပြီး ၎င်း၏နောက်မှ ပြိုလဲမှုတစ်ခုလိုက်လာနေသည် ဟူသော အဓိပ္ပာယ်ပင် ဖြစ်ပါသည်။ အချို့သော စီးပွားရေးကောင်းခြင်း နှင့် စီးပွားရေးကျဆင်းခြင်း သံသရာများသည် အခြားသောအရာများထက် ပို၍အန္တရာယ်ကြီးမားပါသည်။ သို့ဖြစ်လျှင် ဈေးကွက်များကို တည်ငြိမ်စေရန် မည်သို့ပြုလုပ်နိုင်မည်နည်း။

### 'ပူဖောင်း' ဆိုတာဘာလဲ

ပူဖောင်း (Bubble) ဆိုသည်မှာ (စတော့များ၊ အိမ်ခြံမြေများကဲ့သို့) ပိုင်ဆိုင်ပစ္စည်းတစ်ခုကို တန်ဖိုးပို၍သတ်မှတ်ခြင်းဖြစ်ပြီး ၎င်း၏နောက်မှ ပြိုလဲခြင်းဟု သိထားကြသော ရုတ်တရက်တန်ဖိုးကျဆင်းမှု လိုက်ပါလာပါသည်။ မကြာသေးခင်က ဖြစ်ပွားခဲ့သောသာဓကများမှာ ၁၉၉၀ ပြည့်လွန်နှစ်များက dot-com ပူဖောင်းနှင့် ၂၀၀၀ ပြည့်လွန်နှစ်များက အိမ်ခြံမြေပူဖောင်းတို့ ဖြစ်ကြပါသည်။ ပထမဆုံးပေါ်ပေါက်ခဲ့သောပူဖောင်းမှာ ၁၇၃၀ ပြည့်လွန်နှစ်များက ဟော်လန်နိုင်ငံတွင်

ပေါ်ပေါက်ခဲ့သော ကျူးလစ်ပန်းကိုရူးသွပ်ကြသည့်ပူဖောင်းပင် ဖြစ်ပါသည်။ မည်သည့်အတွက် ၎င်းတို့ပေါ်ပေါက်ခဲ့သည်ကို မည်သူမှ အမှန်တကယ် မသိကြပါ။ ၎င်း၏အကြောင်းရင်းသည် ငွေကြေးဖောင်းပွမှု၏ အကြောင်းရင်းနှင့် အတူတူပင်ဖြစ်သည်ဟု အချို့က ပြောကြပါသည်။ စီးပွားရေးထဲတွင် ငွေကြေးများ အလွန်အကျွံများသွားခြင်း ဖြစ်ပါသည်။

အတိုးနှုန်းများနည်းသောအခါ လူတို့သည် ငွေကိုစုဆောင်းရမည့်အစား သုံးစွဲပစ်တတ်၍ သုံးစွဲမှုပူဖောင်းတစ်ခုကို ဖြစ်ပေါ်စေပါသည်။ ထိုအချိန်တွင် ငွေကို ပိုမိုချေးယူရန်လည်း ကုန်ကျစရိတ်သက်သာနေပါသည်။ "ကိုယ့်ထက်ပို၍ မိုက်မဲသူသီအိုရီ" အရ (မိုက်မဲသော) သူတို့သည် ၎င်းတို့ထက် ပို၍မိုက်မဲသူတစ်ယောက်ကို ပြန်ရောင်း၍ ရမည်ဟုယူဆလျှင် ပိုင်ဆိုင်ပစ္စည်းတစ်ခုကိုဝယ်ရာ၌ လိုသည်ထက် ပို၍ ပေးကြပါသည်။

ပူဖောင်းတစ်ခုအတွင်း ပိုမိုတန်ဖိုးဖြတ်ထားသော ပိုင်ဆိုင်ပစ္စည်းများကို ကိုင်ဆောင်ထားသူများထံတွင် ချမ်းသာကြွယ်ဝသည်ဟု တမင်လုပ်ယူဖန်တီးထားသော အသိတစ်ခု ရှိပါသည်။ ထိုအသိက ၎င်းတို့ကို ၎င်းတို့တွင်ရှိသည်ထက် ကျော်လွန်၍သုံးစွဲရန် တိုက်တွန်းအားပေးနေပါသည်။

**'စီးပွားရေးပျက်ကပ်' ဆိုတာဘာလဲ**

စီးပွားရေးပျက်ကပ် (Recession) ဆိုသည်မှာ စုစုပေါင်းပြည်တွင်းထုတ်ကုန်တန်ဖိုး (GDP) အနည်းဆုံး သုံးလပတ် နှစ်ခုဆက်တိုက်ကျဆင်းသည့်၊ သို့မဟုတ် အလုပ်လက်မဲ့ဖြစ်မှု တစ်နှစ်လျှင် ၁. ၅ ရာခိုင်နှုန်းဖြင့် မြင့်တက်လာသည့်အချိန် ဖြစ်ပါသည်။ မည်သည့်အချိန်တွင် စီးပွားရေးပျက်ကပ်ဖြစ်ပွားသည်ကို အမေရိကန်နိုင်ငံရှိ အမျိုးသားစီးပွားရေး သုတေသနဌာနက ဆုံးဖြတ်ပါသည်။ ၎င်း၏သရုပ်ခွဲစိစစ်မှုတွင် ဝင်ငွေကဲ့သို့ အခြေခံအကြောင်းတရားများ ပါဝင်ပါသည်။

စီးပွားရေးပျက်ကပ်များကို စားသုံးသူများ၏သုံးစွဲမှု၊ မတည်ရင်းနှီးမြှုပ်နှံမှုလျော့နည်းမှု၊ အလုပ်လက်မဲ့ ဖြစ်ပွားမှုနှင့် လူမွဲအဖြစ်ခံယူမှု မြင့်တက်လာမှုများဖြင့်သတ်မှတ်ပါသည်။ သတင်းကောင်းမှာ ၎င်းတို့သည် များသောအားဖြင့် ငွေကြေးဖောင်းပွမှုနှုန်း ကျဆင်းမှုဖြင့်လည်း တွဲ၍ လာတတ်ခြင်းပင် ဖြစ်ပါသည်။ အစိုးရများသည် (ငွေကြေးထိန်းချုပ်မှုစနစ်အရ) ငွေသားစီးဆင်းမှုကို တိုးမြှင့်ပေးခြင်းဖြင့်လည်းကောင်း၊ (**Keynes ၏ စီးပွားရေးမူဝါဒအရ**) အစိုးရ၏သုံးစွဲမှုကို တိုးမြှင့်ပေးခြင်းဖြင့်လည်းကောင်း တုံ့ပြန်ပါသည်။

စီးပွားရေးပျက်ကပ်တစ်ခု၏ရှေ့တွင် မြင့်မားသော အလုပ်လက်မဲ့ဖြစ်ပွားမှု၊ မတည်ငြိမ်သော ရှယ်ယာဈေးနှုန်းများ၊ အလုပ်အကိုင်သစ်များ ဖန်တီးမှုမရှိခြင်းများနှင့် အတူတွဲနေသော တိုးတက်မှုတစ်ခု မကြာခဏ ဖြစ်လာတတ်ပါသည်။

**'စီးပွားရေးကောင်းခြင်းနှင့် စီးပွားရေးကျဆင်းခြင်း' ဆိုတာဘာလဲ**

စီးပွားရေးကောင်းခြင်းနှင့် စီးပွားရေးကျဆင်းခြင်း (**Boom and Bust**) ဆိုသည်မှာ စီးပွားရေးတစ်ခု ထူးခြားစွာကျယ်ပြန့်လာပြီး ပြန်ကျုံ့သွားခြင်း ဖြစ်ပါသည်။ ပူဖောင်းတစ်ခု၏ နောက်မှလိုက်လာသည်မှာ စီးပွားရေးကျဆင်းခြင်းပင် ဖြစ်ပါသည်။ ပိုင်ဆိုင်ပစ္စည်းတစ်ခု၏ ဈေးနှုန်းက ၎င်း၏ အမှန်တကယ်တန်ဖိုးကို ကျော်လွန်သွားပြီးနောက် တိုးတက်မှုတစ်ခုဖြစ်အောင် လှုံ့ဆော်ပေးပြီး ထိုတိုးတက်မှုကို တာရှည်ထိန်းမထားနိုင်သောကြောင့် စီးပွားရေးကောင်းခြင်းနှင့် စီးပွားရေးကျဆင်းခြင်း စက်ဝန်းများ များသောအားဖြင့် ဖြစ်ပွားပါသည်။

အမေရိကန်နိုင်ငံသည် လွန်ခဲ့သောနှစ်ပေါင်း ၁၅၀ အတွင်း စီးပွားရေးကောင်းခြင်းနှင့် စီးပွားရေးကျဆင်းခြင်း စက်ဝန်း ၃၂ ခုကို ကြုံခဲ့ရသဖြင့် ပျမ်းမျှအားဖြင့် ၄ နှစ်ခွဲလျှင် တစ်ကြိမ်နှုန်းရှိခဲ့သည်ဟု အချို့ခန့်မှန်းချက်များက ဆိုပါသည်။ လူသိအများဆုံးဥပမာမှာ ၁၉၂၀ ပြည့်လွန်နှစ်များ၏ စီးပွားရေးကောင်းခြင်းဖြစ်ပြီး ၎င်း၏နောက်မှ ၁၉၂၉

ခုနှစ် စတော့ဈေးကွက်ပြိုလဲမှုနှင့် ရောမစီးပွားရေးအကျပ်အတည်းကြီးက တစ်ဆက်တည်းလိုက်ပါလာခဲ့ပါသည်။

၁၉၅၀ ပြည့်လွန်နှစ်များက ထိုစက်ဝန်းကို ၎င်းက အနိုင်ရခဲ့သည်ဟု Keynes က ယူဆခဲ့ပါသည်။ ထိုနည်းတူစွာ Bill Clinton ကလည်း ၁၉၉၀ ပြည့်လွန်နှစ်များက ထိုစက်ဝန်းကို ၎င်းအနိုင်ရခဲ့သည်ဟုယူဆခဲ့ပြီး Gordon Brown ကလည်း ၂၀၀၀ ပြည့်လွန်နှစ်များက စက်ဝန်းကို ၎င်းအနိုင်ရခဲ့သည်ဟု ယူဆခဲ့ပါသည်။ သို့ရာတွင် ၎င်းတို့ထဲမှ မည်သူမျှ ထိုစက်ဝန်းကို အမှန်တကယ် အနိုင်ရခဲ့ခြင်းမရှိပါ။

၂၀၀၀ ပြည့်လွန်နှစ်များ၏ စီးပွားရေးကောင်းခြင်းကို လောင်စာတိုးတက်မှုတွင် စားသုံးသူတို့၏ သုံးစွဲမှုအပေါ် အလွန်အကျွံမှီခိုအားထားမှုက ဖြစ်ပွားစေခဲ့ပါသည်။ လူအများ၏ သုံးစွဲမှုရပ်တန့်သွားပြီး မကြာမီမှာပင် စီးပွားရေးကျဆင်းမှုတစ်ခုက နောက်မှတစ်ဆက်တည်း ပါလာခဲ့ပါသည်။

## 'ငွေဖြစ်လွယ်မှု' ဆိုတာဘာလဲ

ငွေဖြစ်လွယ်မှု (Liquidity) သည် ပိုင်ဆိုင်ပစ္စည်းတစ်ခုကို တန်ဖိုးဆုံးရှုံးမှု အနည်းဆုံးဖြင့်ရောင်း၍ ရနိုင်သောစွမ်းရည် ဖြစ်သည်။ ဤသို့ဖြစ်ရန်အတွက် ဝယ်ယူသူတစ်စု အဆင်သင့်ရှိရမည် ဖြစ်ပါသည်။ ပိုင်ဆိုင်ပစ္စည်းတစ်ခုကို ရောင်းချရန် ပို၍လွယ်ကူလေ၊ ၎င်းသည် ငွေဖြစ်လွယ်လေ ဖြစ်ပါသည်။ ပိုင်ဆိုင်ပစ္စည်းအားလုံးထဲတွင် ငွေသားသည် ငွေဖြစ်လွယ်မှုအရှိဆုံး ဖြစ်ပါသည်။

စီးပွားရေးလုပ်ငန်းတွင် ငွေဖြစ်လွယ်မှုသည် ၎င်း၏စာရင်းရှင်အပ်ငွေကို မြီရှင်ဖြစ်အောင်ထိန်းထားပြီး ၎င်း၏ကြွေးမြီများကို အချိန်မီပြန်လည်ပေးဆပ်နိုင်သည့် ကုမ္ပဏီ၏စွမ်းရည်ကို ရည်ညွှန်းပါသည်။ ကုန်ပစ္စည်းများနှင့် ရင်းနှီးပစ္စည်းများထဲတွင် များပြားလွန်းစွာ ရင်းနှီးမြှုပ်နှံထားလျှင် ကြွေးမြီများကို ပြန်လည်ပေးဆပ်နိုင်မည်မဟုတ်ပါ။ ထိုသို့ဖြစ်လျှင် လုပ်ငန်းအနေဖြင့် ရန်ပုံငွေများရရှိရန်အတွက် စာရင်းရှင်းလင်း

ဖျက်သိမ်းသော ရောင်းချမှုတစ်ခုကို လုပ်ရနိုင်ဖွယ် ရှိပါသည်။ ငွေဖြစ်လွယ်မှုကို တစ်စုံတစ်ခုသောပမာဏအထိ ထိန်းသိမ်းထားရန် ဘဏ်များကို ဥပဒေဖြင့်သတ်မှတ်ထားပါသည်။ ထိုတိကျသောပမာဏသည် အချိန်ကြာလာသည်နှင့်အမျှ ပြောင်းလဲသွားပြီး ၎င်းကိုမကြာခဏ အငြင်းပွားကြပါသည်။

အတိုးနှုန်းနည်းပြီး အစိုးရထံမှ ငွေသားထည့်သွင်းမှု အများအပြားရှိနေသည့်ကြားမှ စီးပွားရေးအတွင်းရှိ ရင်းနှီးမြှုပ်နှံမှုကုန်ခမ်းသွားခြင်းသည် 'ငွေဖြစ်လွယ်မှုထောင်ချောက်' ဖြစ်ပါသည်။ ၎င်းထောင်ချောက်သည် ၁၉၃၀ ပြည့်လွန်နှစ်များက အမေရိကန်နိုင်ငံ၌လည်းကောင်း၊ ၁၉၉၀ ပြည့်လွန်နှစ်များက ဂျပန်နိုင်ငံ၌လည်းကောင်း ဖြစ်ပွားခဲ့သည်ဟု ဆိုပါသည်။

## 'Insolvency' ဆိုတာဘာလဲ

Insolvency (ဒေဝါလီခံခြင်း) သည် လူပုဂ္ဂိုလ်တစ်ဦး၊ သို့မဟုတ် ကုမ္ပဏီတစ်ခုက ၎င်း၏ကြွေးမြီများကို ပြန်လည်ပေးဆပ်နိုင်မှုမရှိခြင်းဖြစ်သည်။ ၎င်းတွင် ငွေသားစီးဆင်းမှု Insolvency နှင့် လက်ကျန်ရှင်းတမ်း Insolvency ဟူ၍ ပုံစံနှစ်မျိုး ရှိပါသည်။ ကြွေးမြီများကို ပြန်လည်ပေးဆပ်ရန် ငွေဖြစ်လွယ်မှုအလုံအလောက် မရှိခြင်းသည် ငွေသားစီးဆင်းမှု Insolvency ဖြစ်ပြီး ကြွေးမြီများက (Equity အစရှိသည့်) ပိုင်ဆိုင်ပစ္စည်းများထက် ကျော်လွန်သွားခြင်းသည် လက်ကျန်ရှင်းတမ်း Insolvency ဖြစ်ပါသည်။

ကုမ္ပဏီတစ်ခုသည် စာရွက်ပေါ်တွင် ကြွေးမြီဆပ်နိုင်စွမ်းရှိသော်လည်း ၎င်း၏ အနီးကပ်ဆုံးကြွေးမြီများကို ပေးဆပ်ရန်လုံလောက်သည့် ငွေဖြစ်လွယ်မှု (ငွေသား) ကို လက်တွေ့ရအောင်မလုပ်နိုင်ခြင်း ဖြစ်နိုင်ပါသည်။ ကုမ္ပဏီတစ်ခုအနေဖြင့် စာရွက်ပေါ်တွင် ကြွေးမြီများပေးဆပ်နိုင်ခြင်းမရှိသော်လည်း ငွေသားစီးဆင်းမှုကောင်းသောကြောင့် ၎င်း၏ ကြွေးမြီများကို ပေးဆပ်နိုင်စွမ်းလည်း ရှိနိုင်ပါသည်။

ကြွေးမြီပေးဆပ်နိုင်စွမ်းမရှိသော ကုမ္ပဏီတစ်ခုသည် သေချာပေါက် Bankrupt မဖြစ်ပါ။ နိုင်ငံအများစုတွင် ကုမ္ပဏီများအား ၎င်းတို့၏ ကြွေးမြီများကို ပြန်လည်စီစဉ်ရန်အချိန်ကို ခွင့်ပြုပေးရန် အရေးယူဆောင်ရွက်မှုများရှိပါသည်။ ယင်းသို့ ပြန်လည်စီစဉ်ခြင်း မဖြစ်မြောက်လျှင် ကုမ္ပဏီတစ်ခုသည် စာရင်းရှင်းလင်းဖျက်သိမ်းခြင်း ခံရနိုင်ပါသည်။ စာရင်းရှင်းလင်းဖျက်သိမ်းခြင်းကို ရှယ်ယာရှင်များ၏ ဆန္ဒအလျောက် သော်လည်းကောင်း၊ မြီရှင်များ၏ အကျပ်ကိုင်မှုဖြင့်သော်လည်းကောင်း ဆောင်ရွက်နိုင်ပါသည်။

## 'Bankruptcy' ဆိုတာဘာလဲ

Bankruptcy (လူမွဲဖြစ်ခြင်း) ဆိုသည်မှာ ကုမ္ပဏီတစ်ခု၊ သို့မဟုတ် လူပုဂ္ဂိုလ်တစ်ယောက်က ၎င်းတို့၏ ကြွေးမြီများကို ပြန်လည်ပေးဆပ်နိုင်ခြင်းမရှိကြောင်း တရားဝင်ကြေညာချက်ဖြစ်ပါသည်။ ဗြိတိန်နိုင်ငံတွင်မူ Bankruptcy သည် လူပုဂ္ဂိုလ်များအတွက်သာ ရည်ညွှန်းပါသည်။ လူပုဂ္ဂိုလ်တစ်ဦး/ကုမ္ပဏီတစ်ခုကို Bankruptcy အဖြစ် ကြေညာလိုက်ပြီဆိုသည်နှင့် ကြွေးမြီများကို ပေးဆပ်ရန်အတွက် ၎င်းတို့၏ ရရန်ပိုင်ခွင့်များကို သိမ်းယူရောင်းချပါသည်။ သက်ဆိုင်ရာလူပုဂ္ဂိုလ်တစ်ဦးချင်း ထံတွင် တာဝန်မရှိတော့ပါ။

အမေရိကန်ပြည်ထောင်စု Bankruptcy ဥပဒေအရ လူပုဂ္ဂိုလ်တစ်ယောက်၊ သို့မဟုတ် ကုမ္ပဏီတစ်ခုကို Bankruptcy ဖြစ်ကြောင်း ကြေညာနိုင်သည့် နည်းလမ်းခြောက်ခုရှိပြီး ၎င်းတို့တစ်ခုစီကို မတူညီသော 'အခန်း' များအဖြစ် သိထားပါသည်။ ၎င်းတို့၏ ကြွေးမြီများကို ပြန်လည်စီစဉ်နေစဉ်တွင် ရောင်းဝယ်ရေးကို ဆက်လက်ဆောင်ရွက်ရန် ကုမ္ပဏီများကို ခွင့်ပြုထားသောကြောင့် အခန်း ၁၁ ကို 'ကော်ပိုရိတ် Bankruptcy' အဖြစ် သိထားကြပါသည်။

မြီရှင်များအနေဖြင့် ၎င်းတို့၏ ရရန်ရှိငွေများကို ရရှိကြောင်း သေချာစေရန် မူလကပုံစံရေးဆွဲထားသော်လည်း Bankruptcy ဥပဒေ



များကို မြီးစားများပြိုလဲပျက်စီးသွားခြင်းမှကာကွယ်ရန် ပို၍ အသုံးပြုလာကြပါသည်။ သို့ရာတွင် Bankruptcy သည် လူမှုရေးနာမည်ပျက်မှုတစ်ခုကို သယ်ဆောင်ပေးနေဆဲဖြစ်ပြီး လူပုဂ္ဂိုလ်များကို ရွေးချယ်တင်မြှောက်ခံရသည့် အလုပ်တစ်ခုကိုလုပ်ကိုင်ခြင်းမှ အတားအဆီးဖြစ်နိုင်ပါသည်။

**'နိုင်ငံပိုင်ပြုလုပ်ခြင်း' ဆိုတာဘာလဲ**

နိုင်ငံပိုင်ပြုလုပ်ခြင်း (Nationalization) ဆိုသည်မှာ အမျိုးသားအစိုးရတစ်ရပ်က ပုဂ္ဂလိကကုမ္ပဏီတစ်ခုကို သိမ်းယူ၍ ပြည်သူပိုင်အဖြစ်ထားလိုက်ခြင်း ဖြစ်ပါသည်။ ကုမ္ပဏီသည် စီးပွားရေးကျဆင်းတော့မည်ဖြစ်ပြီး စီးပွားရေးအဆောက်အအုံကြီးအတွက် ၎င်းကို ဆက်လက်လုပ်ကိုင်ရန် မဖြစ်မနေလိုအပ်သည်ဟု အစိုးရကယူဆသောကြောင့် နိုင်ငံပိုင်ပြုလုပ်ခြင်း မကြာခဏ ပေါ်ပေါက်ပါသည်။ သို့မဟုတ် ၎င်းသည် နိုင်ငံရေးအကြောင်းတရားများကြောင့် ဖြစ်နိုင်ပါသည်။ အဓိကကျသောလုပ်ငန်းအချို့ကို ပုဂ္ဂလိကအကျိုးအမြတ်ထက် အများပြည်သူကောင်းကျိုးအတွက် လုပ်ကိုင်သင့်သည်ဟု ဆိုရှယ်လစ်ဝါဒီ အများစုကယုံကြည်ကြပါသည်။

များသောအားဖြင့် နိုင်ငံပိုင်ပြုလုပ်သော ကုမ္ပဏီများ၏ ယခင်ပိုင်ရှင်များကို လျော်ကြေးပေးပါသည်။ လွန်ကဲသောအချို့ဖြစ်ရပ်များတွင်မူ ၎င်းတို့ကို လျော်ကြေးပေးချင်မှပေးမည် ဖြစ်ပါသည်။ ထိုသို့ဖြစ်ရပ်မျိုးကို 'ပြည်သူပိုင်သိမ်းခြင်း' (Expropriation) ဟု ခေါ်ပါသည်။ ကျူးဘားနိုင်ငံတွင် Castro တော်လှန်ရေးလုပ်ခဲ့ပြီးနောက် နိုင်ငံခြားသားပိုင်ကုမ္ပဏီအားလုံးကို အစိုးရက ပြည်သူပိုင်သိမ်းခဲ့ပါသည်။ ၎င်းကုမ္ပဏီများထဲမှ အချို့ကိုသာလျှင် လျော်ကြေးပေးခဲ့ပါသည်။ နိုင်ငံပိုင်ပြုလုပ်ခြင်းအတွက် အဖြစ်များသောပစ်မှတ်များမှာ လျှပ်စစ်ဓာတ်အား၊ စာတိုက်နှင့် အများပြည်သူ သယ်ယူပို့ဆောင်ရေးကဲ့သို့ အခြေခံအဆောက်အအုံဖြည့်ဆည်းပေးသူများ ဖြစ်ပါသည်။

## 'ကယ်တင်ငွေ' ဆိုတာဘာလဲ

ကယ်တင်ငွေ (Bailout) ဆိုသည်မှာ များသောအားဖြင့် ကုမ္ပဏီတစ်ခုသည် ငွေဖြစ်လွယ်မှုမရှိ၍ ငွေတောင်းခံမှုများကို ပေးချေနိုင်စွမ်းမရှိသောကြောင့် ၎င်းကုမ္ပဏီကို Bankrupt ဖြစ်သွားခြင်းမှ ကာကွယ်ရန်အတွက် ထုတ်ပေးသောချေးငွေ ဖြစ်ပါသည်။ ကယ်တင်ငွေများကို အဓိကအားဖြင့် အစိုးရကထုတ်ပေးပါသည်။ ကုမ္ပဏီတစ်ခုက အခြားကုမ္ပဏီတစ်ခုကို ကယ်တင်နိုင်ပါသည်။ သို့ရာတွင် ယင်းသို့ပြုလုပ်ခြင်း၏ ရည်ရွယ်ချက်မှာမူ ပြိုင်ဘက်ကုမ္ပဏီတစ်ခုကို သိမ်းယူရန်ဖြစ်ပါသည်။

အလုပ်အကိုင်နှင့် လုပ်ငန်းပေါင်းများစွာသည် ကုမ္ပဏီတစ်ခုအပေါ်၌ မှီခိုအားထားနေရလျှင် ၎င်းကုမ္ပဏီသည် 'ကြီးမားလွန်းသဖြင့် အရေးနိမ့်၍မဖြစ်' ဟု အစိုးရကယူဆပြီး ၎င်းကိုကယ်တင်ရန် ဝင်လာနိုင်ပါသည်။ အပြန်အလှန်အားဖြင့် အစိုးရသည် များသောအားဖြင့် ကုမ္ပဏီတွင်ရှိသော ရှယ်ယာများရရှိ၍ နောင်တစ်ချိန်တွင် ၎င်း၏ အသုံးစရိတ်အချို့ကို လျော်ကြေးပြန်ရရန်အတွက် ၎င်းရှယ်ယာများကို ရောင်းချနိုင်ပါသည်။

မှားယွင်းမှုရှိလျှင် အစိုးရကဝင်လာလိမ့်မည်ကို သိနေသောကြောင့် ကယ်တင်ငွေများသည် စီးပွားရေးလုပ်ငန်းများအား အလွန်အကျွံစွန့်စားမှုပြုလုပ်ရန် အားပေးသည်ဟု လွတ်လပ်သော ဈေးကွက်သမားများက ယုံကြည်ကြပါသည်။ ၂၀၀၇-၀၉ ခုနှစ်များက ၎င်းတို့သည် 'ကြီးမားလွန်းသဖြင့် အရေးနိမ့်၍မဖြစ်' ဟု ယူဆခြင်းခံခဲ့ရသဖြင့် ကမ္ဘာတစ်ဝှမ်းရှိ ဘဏ်များကိုကယ်တင်ခဲ့ပြီး အခွန်ထမ်းပြည်သူများကို ဒေါ်လာ ဘီလီယံပေါင်းများစွာ ကုန်ကျစေခဲ့ပါသည်။

## 'လှုံ့ဆော်မှု' ဆိုတာဘာလဲ

လှုံ့ဆော်မှု (Stimulus) ဆိုသည်မှာ စနစ်ထဲရှိ ငွေကြေးပမာဏကို တိုးမြှင့်ပေးခြင်းအားဖြင့် ဒယီးဒယိုင်ဖြစ်နေသော စီးပွားရေးကို ပြန်လည်

ရှင်သန်လာရန် အစိုးရကကြိုးပမ်းခြင်း ဖြစ်ပါသည်။ လှုံ့ဆော်မှုကို (အတိုးနှုန်းနည်းသော) ငွေကြေးမူဝါဒဖြင့်၊ သို့မဟုတ် (အစိုးရအသုံးစရိတ် ပိုမိုများပြားသော) ဘဏ္ဍာရေးမူဝါဒဖြင့် ပြုလုပ်နိုင်ပါသည်။

စီးပွားရေးပညာရှင်တို့သည် ငွေကြေးထိန်းချုပ်မှုနည်းလမ်းကို ဆယ်စုနှစ်များနှင့်ချီ၍ ထောက်ခံအားပေးခဲ့ပါသည်။ အကြောင်းမှာ ၎င်းနည်းလမ်းသည် အစိုးရ၏အခန်းကဏ္ဍကို အနည်းဆုံးဖြစ်စေပြီး ဈေးကွက်များထဲတွင် ဝင်ရောက်စွက်ဖက်မှုကို ပို၍နည်းစေသောကြောင့် ဖြစ်ပါသည်။ ၂၀၀၇-၀၉ ခုနှစ်များက အကျပ်အတည်းအတွင်း အစိုးရများစွာသည် ၎င်းတို့တိုးနှုန်းများကို သုညနီးပါးအထိ လျှော့ချပေးပြီး ဘဏ္ဍာရေးနည်းလမ်းတစ်ခုကို အတင်းအကျပ် လက်ခံကျင့်သုံးစေခဲ့ပါသည်။

ဤယူဆချက်မှာ စားသုံးသူများ၏သုံးစွဲခြင်းများကို အစိုးရ၏သုံးစွဲမှုက အစားထိုးနေရာဝင်ယူပြီး ၎င်းကို တိုးလာသောအခွန်ကောက်ခံရရှိငွေနှင့် အလုပ်လက်မဲ့များ၏ အကျိုးခံစားခွင့် ပို၍လျှော့နည်းသွားမှုများဖြင့် ပြန်၍ထေပေးသည်ဟူသော ယူဆချက် ဖြစ်ပါသည်။ လှုံ့ဆော်မှုအတွက် သုံးစွဲခြင်းနှင့်ပတ်သက်သည့်ပြဿနာမှာ နိုင်ငံတစ်နိုင်ငံကို အခွန်ထမ်းပြည်သူများက ပေးဆောင်ရမည့်ကြွေးမြီများဖြင့် တာဝန်ပိစေခြင်း ဖြစ်ပါသည်။ ၎င်းသည် 'မဟာအစိုးရ' ဆိုသော ပုံစံလည်း ပေါက်နေပါသည်။

## 'Leverage' ဆိုတာဘာလဲ

ဘဏ္ဍာရေးတွင် Leverage ဆိုသည်မှာ ရင်းနှီးမြှုပ်နှံမှုတစ်ခုကို တိုးချဲ့ရန်အတွက် ကြွေးမြီကိုအသုံးပြုခြင်း (Futures နှင့် Options များကဲ့သို့ စာချုပ်စာတမ်းများဖြင့်ချေးယူခြင်း) ဖြစ်ပါသည်။

Leverage ပို၍ကြီးမားလေ ချေးယူသောပမာဏ ပို၍ ကြီးမားလေဖြစ်သကဲ့သို့ အကျိုးအမြတ်ပြန်လည်ရရှိရန် အလားအလာ ကြီးမားလေ၊ ဆုံးရှုံးရန်အလားအလာလည်း ပို၍ကြီးမားလေ ဖြစ်ပါသည်။

သေးငယ်သော စွန့်စားရင်းနှီးမြှုပ်နှံမှုတစ်ခုအဖြစ် စခဲ့သော အရာသည် Leverage ဖြင့် ကျယ်ပြန့်သွားသည့်အတွက် ၎င်းမအောင်မမြင်ဖြစ်လျှင် ကျယ်ပြန့်သောဆုံးရှုံးမှု ဖြစ်ပေါ်လာပါသည်။ Leverage များကြီးမားခြင်းသည် ကုမ္ပဏီများ၏ ဆုံးရှုံးမှုများကိုကြီးမားစေခဲ့သဖြင့် ၂၀၀၇-၀၉ အကျပ်အတည်းသည် Leverage များအပေါ်တွင်လည်း တစ်စိတ်တစ်ပိုင်း တာဝန်ရှိခဲ့ပါသည်။

စီးပွားရေးလုပ်ငန်းတွင် Leverage သည် ကုမ္ပဏီကို ငွေကြေးဖြည့်ဆည်းရန် အသုံးပြုသော ကြွေးမြီ၏ပမာဏ ဖြစ်ပါသည်။ ကြွေးမြီများစွာရှိသော ကုမ္ပဏီတစ်ခုသည် Leverage ကြီးမားစွာလုပ်ထားခြင်းခံရသည်ဟု ဆိုရမည်ဖြစ်ပါသည်။ ကုမ္ပဏီတစ်ခုက ပေးရန်တင်ရှိသော ကြွေးမြီများကို ၎င်းတွင်ရှိသော ရရန်ပိုင်ခွင့်များ၏ ပမာဏဖြင့်စားခြင်းဖြင့် ၎င်းကုမ္ပဏီ၏ Leverage ကို တွက်ချက်နိုင်ပါသည်။ ရရှိသောရလဒ်သည် ၎င်း၏ 'Leverage အချိုး' ဖြစ်ပါသည်။

မြင့်မားသော Leverage အချိုးက ကုမ္ပဏီသည် ၎င်းအမှန်တကယ်တတ်နိုင်သည်ထက် ပို၍ချေးယူနေသည်ကို ပြောပြနေပါသည်။ ထို့ကြောင့် ဤသို့ပြုလုပ်ခြင်းသည် ကောင်းသောရင်းနှီးမြှုပ်နှံမှု ရွေးချယ်ခြင်းတစ်ခုမဟုတ်ပါ။

## 'ABS' ဆိုတာဘာလဲ

Asset-backed Securities (ABS) (ပိုင်ဆိုင်ပစ္စည်း ကျောထောက်နောက်ခံပြုငွေချေးစာချုပ်) များသည် ပိုင်ဆိုင်ပစ္စည်း အစုအဝေးတစ်ခုအပေါ်တွင် အခြေခံသော အစုရှယ်ယာများ ဖြစ်ပါသည်။ ကုမ္ပဏီတစ်ခုရှိ အစုရှယ်ယာများကဲ့သို့ တစ်ခုတည်းသော ပိုင်ဆိုင်ပစ္စည်းအပေါ်တွင် အခြေမခံပါ။ များသောအားဖြင့် ၎င်းအစုအဝေးကို အပေါင်ပစ္စည်းများ၊ မော်တော်ကားချေးငွေများ၊ ကျောင်းသားချေးငွေများကဲ့သို့ တစ်နည်းအားဖြင့် ထုတ်ရောင်းရန် ငွေဖြစ်လွယ်ခြင်းမရှိသော ပိုင်ဆိုင်ပစ္စည်းများဖြင့် ဖန်တီးထားပါသည်။

၎င်းတို့ကို 'စုစည်းခြင်း' အားဖြင့် ပိုင်ဆိုင်ပစ္စည်းတစ်ခုစီမှ စွန့်စားမှုကိုလျော့နည်းစေပြီး ၎င်းတို့သည် ရောင်းဝယ်၍ရနိုင်သော ဘဏ္ဍာရေးထွက်ကုန်တစ်ခု ဖြစ်လာပါသည်။ ပိုင်ဆိုင်ပစ္စည်းအစုအဝေးကို ငွေချေးစာချုပ်များအဖြစ် ပြောင်းလဲခြင်းသည် မူလထုတ်ချေးသူများကိုလည်း ပေးရန်တာဝန်များမှ လွတ်ကင်းစေပြီး မတည်ငွေကိုရရှိစေလခြင်းဖြင့် ၎င်းတို့ကို ထပ်မံထုတ်ချေးခွင့်ပေးပါသည်။

ဤလုပ်ငန်းစဉ်သည် ၁၉၈၀ ပြည့်လွန်နှစ်များတွင် အောင်မြင်ခဲ့ပြီး ပွဲစားများကို အရည်အသွေးထက် အရေအတွက်အပေါ်တွင် ဆုချခဲ့သဖြင့် ငွေထုတ်ချေးမှုစံနှုန်းများ ပို၍ပို၍ လျော့နည်းလာခဲ့ပါသည်။ ချေးငွေပြန်ဆပ်နိုင်စွမ်းမရှိသည့် ချေးယူသူ (Subprime Borrower) များက ချေးငွေများကို ပြန်ဆပ်ရန်ပျက်ကွက်မှုများ များပြားလွန်းလာသောအခါ ဤ (ABS) များ၏တန်ဖိုးသည် ထိုး၍ကျဆင်းပြီး ငွေကြေးအဖွဲ့အစည်းများကို အကျပ်အတည်းထဲသို့ ပို့ပေးခဲ့ပါသည်။ ရလဒ်မှာ ၂၀၀၇ ခုနှစ် ချေးငွေပြတ်တောက်ခြင်းနှင့် ၎င်း၏ နောက်မှလိုက်ပါလာသော ၂၀၀၇-၀၉ အကျပ်အတည်းပင် ဖြစ်ပါသည်။

## 'CDS' ဆိုတာဘာလဲ

**Credit Default Swap (CDS)** (ချေးငွေဆပ်ရန် ပျက်ကွက်မှုဖလှယ်ခြင်းစာချုပ်) ဆိုသည်မှာ ငွေချေးစာချုပ်၊ သို့မဟုတ် ချေးငွေတစ်ရပ်ကဲ့သို့သော ဘဏ္ဍာရေးစာချုပ်စာတမ်းတစ်ခုအား ပြန်လည်ပေးဆပ်မှုမပြုခြင်းမှ ထိရောက်သော အာမခံချက်တစ်ခု ဖြစ်ပါသည်။

ဝယ်ယူသူသည် ရောင်းချသူအား ပရီမီယံများကိုပေးဆောင်ပြီး ငွေချေးစာချုပ်က ပြန်ပေးရန်ပျက်ကွက်လျှင် အဆိုပါငွေကို တစ်လုံးတစ်ခဲတည်း ရပါသည်။ ငွေချေးစာချုပ်က ပြန်ပေးရန်ပျက်ကွက်ခြင်းမရှိလျှင် ရောင်းချသူသည် ပရီမီယံများကို ယူထားလိုက်ပါသည်။ စွန့်စားမှုကို စီမံခန့်ခွဲလိုသော ရင်းနှီးမြှုပ်နှံသူများသည် CDS များကို ဝယ်ယူကြပါသည်။

ငွေချေးစာချုပ်က ပုံမှန်ပြုမူလျှင် ငွေများကို ၎င်းတို့ရကြပါသည်။ ငွေပေးရန်ပျက်ကွက်လျှင်လည်း ထိုငွေကို ၎င်းတို့ရရှိကြပါသည်။ ငွေချေးစာချုပ်တစ်ခုသည် ငွေပေးရန်ပျက်ကွက်လိမ့်မည်ဟု ယုံကြည်သောစွန့်စားရင်းနှီးမြှုပ်နှံသူများကလည်း CDS များကို ဝယ်ယူကြပါသည်။ ဤသို့လုပ်ဆောင်ရာတွင်မူ CDS များသည် လောင်းကစားခြင်းနှင့် ပို၍ တူနေပါသည်။

နားလည်သဘောပေါက်ထားသော ငွေချေးစာချုပ်တစ်ခု၏ စွန့်စားမှုဖြင့် ပရီမီယံ၏အရွယ်အစားကို အဆုံးအဖြတ်ပေးသောကြောင့် CDS များကို ကြွေးပေးရန် ယုံကြည်စိတ်ချရမှု၏ အတိုင်းအတာကောင်းတစ်ခုကို ပေးနေသောအရာများအဖြစ် မြင်ကြပါသည်။ Lehman Brothers ကဲ့သို့သောဘဏ်ကြီးများ ပြိုလဲခြင်းသည် CDS များ၏ မြင့်မားသည့် စွန့်စားမှုအဆင့်သတ်မှတ်ချက်များက ယေဘုယျ ယုံကြည်မှုဆုံးရှုံးခြင်းကို ဖြစ်ပေါ်စေခဲ့သောကြောင့်ဖြစ်သည်ဟု အပြစ်တင်ခြင်းခံခဲ့ရပါသည်။

## 'CDO' ဆိုတာဘာလဲ

Collateralized Debt Obligation (CDO) (အပေါင်ပစ္စည်းဖြင့် ကြွေးမြီတာဝန်ခံစာချုပ်) များသည် ပိုင်ဆိုင်ပစ္စည်းများဖြင့် ကျောထောက်နောက်ခံပြုထားသည့် ငွေချေးစာချုပ်များဖြစ်ပြီး ပိုင်ဆိုင်ပစ္စည်းတစ်ခုတည်းသာမဟုတ်ဘဲ ပိုင်ဆိုင်ပစ္စည်းအစုအဝေးတစ်ခုအပေါ်တွင် အခြေခံထားသည်ဟု အဓိပ္ပာယ်ရပါသည်။ CDO များကို ပြိုင်ဘက်ကင်းစေသည့်အရာမှာ အဆိုပါ ပိုင်ဆိုင်ပစ္စည်းစုစည်းမှုများကို Tranche (အစိတ်အပိုင်း) များအဖြစ် ခွဲထုတ်၍ ၎င်း Tranche များကို ၎င်းတို့နှင့် ဆက်စပ်နေသော စွန့်စားမှုအတိုင်းအတာအရ ရောင်းချခြင်းပင် ဖြစ်သည်။

ဤ Tranche များသည် (စွန့်စားမှုအနည်းဆုံး) အထက်ပိုင်းမှ (စွန့်စားမှုအများဆုံး) အောက်ပိုင်းအထိ အမျိုးမျိုးရှိပါသည်။ ဆုံးရှုံးမှု

များကို အောက်ပိုင်း Tranche များက ပထမဦးစွာခံရသော်လည်း အကျိုးအမြတ်များကိုမူ ကြီးစဉ်ငယ်လိုက်ဝါစဉ်အရပေးပါသည်။

ထို့ကြောင့် အောက်ပိုင်း Tranche များသည် ဆုံးရှုံးမှုများကို ကျခံပေးခြင်းဖြင့် အထက်ပိုင်း Tranche များကို ကာကွယ်စောင့်ရှောက်ပါသည်။ သို့ရာတွင် စွန့်စားမှုပိုမိုမြင့်မားလေ ပြန်ထုတ်ပေးသည့်ငွေကလည်း ပိုမိုများပြားလေ ဖြစ်ပါသည်။ CDO များကို ၁၉၈၇ ခုနှစ်တွင် တီထွင်ခဲ့ပါသည်။ ထို့နောက် ဆယ်စုနှစ်တစ်ခုကြာသောအခါ ၎င်းတို့သည် ဈေးကွက်တွင် အလျင်မြန်ဆုံး တိုးတက်နေသောကဏ္ဍ ဖြစ်ခဲ့ပါသည်။

၎င်းတို့သည် ရှုပ်ထွေးလွန်းသောကြောင့် ရင်းနှီးမြှုပ်နှံသူများစွာက ၎င်းတို့ မည်သည့်အရာကို ဝယ်နေကြသည်ကို နားလည်ကြသည် မဟုတ်ပါ။ ၂၀၀၈ ခုနှစ်မတိုင်မီ CDO ရောင်းဝယ်သူအများစုသည် အခက်အခဲများကိုလွန်မြောက်ရန် ကြီးမားသောကယ်တင်ငွေများကို လိုအပ်ခဲ့ကြပါသည်။ ၂၀၀၇ ခုနှစ်၊ အောက်တိုဘာလတွင် CDO များ၏ ဆုံးရှုံးမှုတစ်မျိုးတည်းက သုံးလတစ်ကြိမ် ဒေါ်လာ ၇.၉ ဘီလီယံရှိကြောင်း Merrill Lynch က အစီရင်ခံခဲ့ပါသည်။ ထို့နောက် တစ်နှစ်ကြာသောအခါ ၎င်းတို့အားလုံးကို အမေရိကဘဏ်က ဝယ်သွားခဲ့ပါသည်။

## 'SIV' ဆိုတာဘာလဲ

**Structured Investment Vehicle (SIV)** များသည် ၁၉၈၀ ပြည့်လွန်နှစ်များတွင် ဘဏ္ဍာရေး အလွန်ကောင်းမွန်ခဲ့စဉ်က Citigroup က တီထွင်ခဲ့သော ဘဏ္ဍာရေးစာချုပ်စာတမ်းတစ်ခု ဖြစ်ပါသည်။ ၎င်းတို့၏ပုံစံသည် အတိုးနှုန်းနည်းနည်းဖြင့် ကာလတိုချေးငွေများကိုထုတ်ယူ၍ အကျိုးအမြတ်ပြန်ရနှုန်းများပြားသော ကာလရှည်ဘဏ္ဍာရေးစာချုပ်စာတမ်းများတွင် ရင်းနှီးမြှုပ်နှံရန် ဖြစ်ပါသည်။ ထိုနှုန်းနှစ်မျိုး၏ ခြားနားချက်သည် အမြတ်တစ်ခုကို ပေးပါသည်။ ဤသို့ပေးခြင်းက SIV များ

သည် ၎င်းတို့၏ရင်းနှီးမြှုပ်နှံမှုများကို ထိန်းသိမ်းထားရန်အတွက် ပုံမှန် ပြန်၍ ငွေကြေးထည့်ဝင်ပေးရမည်ဟူသော အဓိပ္ပာယ်ဖြစ်ပါသည်။

SIV များသည် အဓိကအားဖြင့် SAB (ပိုင်ဆိုင်ပစ္စည်းကျော ထောက်နောက်ခံပြု စာချုပ်စာတမ်းများ) ထဲတွင် ရင်းနှီးမြှုပ်နှံခဲ့ပါသည်။ SAB များထဲတွင် ကြွေးမြီပြန်ဆပ်နိုင်စွမ်းမရှိသူများကို ပေးထားသော အပေါင်စာချုပ်များအပါအဝင် ၎င်းတို့၏ ရင်းနှီးမြှုပ်နှံမှုအစုစုထဲရှိ အပေါင်စာချုပ်များ ပါဝင်ပါသည်။

၂၀၀၇ ခုနှစ်တွင် ကာလတိုချေးငွေများ ကုန်ခန်းသွားသော အခါ SIV များသည် ၎င်းတို့ပြည့်စုံခြင်းမရှိသေးမီ ၎င်းတို့၏ ရေရှည်ရင်းနှီး မြှုပ်နှံမှုများကို ပြန်လည်ငွေကြေးဖြည့်ဆည်းနိုင်ခြင်း မရှိတော့ပါ။ ၂၀၀၈ ခုနှစ်ကုန်ဆုံးသည့်အချိန်တွင် ဤစာချုပ်စာတမ်းမျိုး မရှိတော့ပါ။

**'Fannie Mae နဲ့ FreddieMac' ဆိုတာ ဘာတွေလဲ**

Fannie Mae နှင့် Freddie Mac နှစ်ခုစလုံးသည် အမေရိကန် အပေါင်စာချုပ်ဖြင့် ငွေထုတ်ချေးသူများအတွက် ငွေကြေးဖြည့်ဆည်း ပေးသော ပုဂ္ဂလိက (ရှယ်ယာရှင်များ) ပိုင်ဆိုင်သောလုပ်ငန်းများ ဖြစ်ကြ ပါသည်။ ကုမ္ပဏီနှစ်ခုစလုံးသည် ထုတ်ချေးသူများထံမှ အပေါင်စာချုပ် များကိုဝယ်ယူကြပြီး ၎င်းတို့ကို ငွေချေးစာချုပ်များအဖြစ် ပြန်လည်ပြုပြင် စီစဉ်ပြီး ရင်းနှီးမြှုပ်နှံသူများသို့ ရောင်းချပါသည်။ ဤသို့ပြုလုပ်ခြင်းသည် ငွေထုတ်ချေးသူများအား ပို၍ထုတ်ချေးနိုင်အောင် လုပ်ပေးပါသည်။

Fannie Mae သည် Federal National Mortgage Association (ဗဟိုအစိုးရ အမျိုးသားအပေါင်စာချုပ်လုပ်ငန်းအသင်း) ကို ကိုယ်စားပြုပြီး Freddie Mac သည် Federal Home Loan Mortgage Corporation (ဗဟိုအစိုးရ ပြည်တွင်းချေးငွေအပေါင်စာချုပ်လုပ်ငန်း ကော်ပိုရေးရှင်း) ကို ကိုယ်စားပြုပါသည်။ ၁၉၃၈ ခုနှစ်တွင် အိမ်ဝယ်ယူသူ များအတွက် ရနိုင်သော အပေါင်စာချုပ်အရေအတွက် တိုးတက်လာ စေရန် Fannie Mae ကို အမေရိကန်အစိုးရက တီထွင်ခဲ့ပါသည်။

၁၉၆၈ ခုနှစ်တွင် Fannie Mae ကို ပုဂ္ဂလိကပိုင်အဖြစ်သို့ ပြောင်းလဲခဲ့ပြီး ယှဉ်ပြိုင်မှုရှိစေရန်အတွက် ၁၉၇၀ ခုနှစ်တွင် Freddie Mac ကို ဖန်တီးခဲ့ပါသည်။ ၎င်းတို့က ၂၀၀၇ ခုနှစ်မကုန်မီ အမေရိကန် အပေါင်ပစ္စည်းများအားလုံး၏ တစ်ဝက်ကို ဒေါ်လာ ၁၂ ထရီလီယံအထိ ငွေကြေးထောက်ပံ့ခဲ့သော်လည်း သုံးလအတွင်း ဒေါ်လာ ၃ ဘီလီယံ ဆုံးရှုံးခဲ့ပါသည်။

၂၀၀၈ ခုနှစ်တွင် အမေရိကန်အစိုးရသည် ထိုကုမ္ပဏီနှစ်ခု စလုံးကို ကြွေးမြီမပေးဆပ်နိုင်သော စီးပွားရေးအကျပ်အတည်းကြီး၏ နောက်ပိုင်းတွင် စီးပွားပျက်ခြင်းမှကာကွယ်ရန်အတွက် 'Conservatorship' ခေါ် အုပ်ထိန်းမှုအောက်သို့ ပို့ခဲ့ပါသည်။

# (၇)
# တစ်ကမ္ဘာလုံး နီးကပ်ဆက်နွှယ်သွားခြင်း

စီးပွားရေးများသည် တစ်သီးတခြားစီရှိမနေကြပါ။ အထူးသဖြင့် **Globalized** (တစ်ကမ္ဘာလုံး နီးကပ်ဆက်နွှယ်နေသော) ကမ္ဘာကြီးတွင် ထိုသို့ရှိမနေပါ။ သို့ရာတွင်အချို့သောနိုင်ငံများသည် ကမ္ဘာ့စီးပွားရေးတွင် အခြားနိုင်ငံများထက် ပို၍ကောင်းနေပုံရပါသည်။ ဘဝ၏ကျန်သော အစိတ်အပိုင်းများမှာကဲ့သို့ပင် များသောအားဖြင့် စည်းမျဉ်းများကို စတင်ဖန်တီးသူများမှာ ချမ်းသာသူများနှင့် ဩဇာတိက္ကမကြီးမားသူများပင် ဖြစ်ပါသည်။

## ‘Globalization’ ဆိုတာဘာလဲ

လွန်ခဲ့သည့် နှစ်ပေါင်းနှစ်ဆယ်အတွင်းတွင် ကုန်ပစ္စည်းများ၊ ဝန်ဆောင်မှုများနှင့် အရင်းအနှီးများသည် ပို၍နေရာရွှေ့ပြောင်းလာခဲ့ပြီး အမျိုးသားစီးပွားရေးများသည် ပို၍အပြန်အလှန်ဆက်နွှယ်လာခဲ့ပါသည်။ ၎င်း၏နောက်တွင် မည်သည့်အရာရှိသနည်း။ အကြောင်းတရားများစွာ ရှိပါသည်။ ပိုမိုကောင်းမွန်သော ဆက်သွယ်ရေးနှင့် သယ်ယူပို့ဆောင်ရေးသည် အယူအဆများ၊ ကုန်စည်များနှင့်လူများကို ကမ္ဘာကိုပတ်၍ ရွေ့လျားစေရန်ကူညီပေးနေပါသည်။ အပြည်ပြည်ဆိုင်ရာ သဘောတူညီချက်များသည် နယ်စပ်များကိုဖြတ်ကျော်သည့် ကုန်သွယ်မှုကိုအားပေးပြီး

ဘဏ္ဍာငွေအရင်းအနှီးသည် ကမ္ဘာပေါ်ရှိမည်သည့်နေရာတွင်မဆို ရင်းနှီးမြှုပ်နှံနိုင်ပါသည်။

Globalization ၏လက်တံသည် ကျယ်ပြန့်ပါသည်။ နယူးယောက်မြို့တွင်ဖြစ်စေ၊ အိန္ဒိယနိုင်ငံ၏ ကျေးလက်တွင်ဖြစ်စေ အစိုးရများ၊ ကုမ္ပဏီများနှင့် လူပုဂ္ဂိုလ်အများအတွက် ယှဉ်ပြိုင်စရာနေရာများကို ၎င်းက ပြန်လည်ပုံဖော်ပေးခဲ့ပါသည်။ Globalization (တစ်ကမ္ဘာလုံး နီးကပ်ဆက်နွှယ်သွားခြင်း) သည် အားလုံးအတွက် ပိုမိုချမ်းသာကြွယ်ဝမှုကို ယူဆောင်လာနိုင်သည်ဟု အချို့က ဆိုကြပါသည်။ အချို့ကမူ Globalization သည်ချမ်းသာသူများကို အထောက်အကူပြုပြီး ဆင်းရဲသူများကိုထိခိုက်စေသည်ဟု ဆိုကြပါသည်။ Globalization ကိုကြိုက်သည်ဖြစ်စေ၊ မကြိုက်သည်ဖြစ်စေ ကျွန်ုပ်တို့အနေဖြင့် Globalization နှင့်အတူ နေထိုင်သွားရတော့မည်သာ ဖြစ်ပါသည်။

## 'ငွေကြေးလဲလှယ်နှုန်း' ဆိုတာဘာလဲ

ငွေကြေးလဲလှယ်နှုန်း (Exchange rate) ဆိုသည်မှာ အခြားငွေကြေးတစ်ခုနှင့် နှိုင်းယှဉ်၍ရရှိသည့် ငွေကြေးတစ်ခု၏တန်ဖိုးပင်ဖြစ်ပါသည်။ ယခုအခါ ငွေကြေးလဲလှယ်နှုန်းအများစုသည် ဈေးကွက်အပေါ်တွင်မူတည်၍ ပြောင်းလဲနေပါသည်။ တစ်နည်းအားဖြင့် ပြောင်းလွယ်ပြင်လွယ် ရှိပါသည်။ သို့ရာတွင် ၁၉၇၁ ခုနှစ်မတိုင်မီကမူ ငွေကြေးများကို ဒေါ်လာပေါ်မူတည်၍ ပုံသေသတ်မှတ်ထားကြပါသည်။ အချို့ငွေကြေးများကို ယနေ့ထက်တိုင် ယင်းသို့ပင် ပုံသေသတ်မှတ်ထားကြပါသည်။

လဲလှယ်နှုန်းများကို အတိုးနှုန်းများ၊ ငွေကြေးဖောင်းပွမှု၊ ရောင်းလိုအားနှင့်ဝယ်လိုအား၊ နိုင်ငံတစ်နိုင်ငံ၏ နိုင်ငံရေး၊ စီးပွားရေးအခြေအနေများ အစရှိသည့် အကြောင်းတရားများစွာက ပုံဖော်ပေးနေပါသည်။ ငွေကြေးလဲလှယ်နှုန်းများသည် ဈေးကွက်အရပြောင်းလဲနေသောအခါ ပြည်ပအားလပ်ရက်ခရီးတစ်ခု၏ ကုန်ကျစရိတ်ကို ထိခိုက်နိုင်ပါသည်။

သို့ရာတွင် ၎င်းတို့က အမှန်တကယ်ထိခိုက်မှုရှိစေနိုင်သည်မှာ ပြည်ပငွေကြေးလဲလှယ်မှုဈေးကွက်ပင် ဖြစ်ပါသည်။

အပြည်ပြည်ဆိုင်ရာကုန်သွယ်မှုနှင့် ရင်းနှီးမြှုပ်နှံမှုကို ကူညီရန်အတွက် ၁၉၇၀ ပြည့်လွန်နှစ်များတွင် နိုင်ငံခြားငွေကြေး (Forex) ဈေးကွက်ကို ဖန်တီးခဲ့ပါသည်။ သို့ရာတွင် စွန့်စားရောင်းဝယ်၍ အကျိုးအမြတ်ရရှိရန်လည်း ၎င်းကိုအသုံးပြုပါသည်။ ရောင်းဝယ်သူများသည် ငွေကြေးလဲလှယ်နှုန်းများထံမှ အကျိုးအမြတ်ရရှိရန်အတွက် ငွေကြေးပမာဏအမြောက်အမြားကို ရောင်းဝယ်ကြပြီး တစ်နေ့လျှင် ငွေကြေးလဲလှယ်မှုတန်ဖိုးပေါင်း ဒေါ်လာ ၃. ၂ ထရီလီယံကျော်အထိ ရှိပါသည်။

ကြီးမားသောပမာဏဖြင့် နိုင်ငံခြားငွေကြေးရောင်းဝယ်ခြင်းသည် ငွေကြေးတစ်ခု၏တန်ဖိုးကို ထိခိုက်နိုင်ပါသည်။ အလွန်အကျွံများပြားသောရင်းနှီးမြှုပ်နှံသူများက ယူရိုငွေကို ချက်ချင်းထုတ်ရောင်းလိုက်ပါက ဝယ်လိုအားရုတ်တရက်ကျသွားပြီး ၎င်း၏တန်ဖိုး ကျဆင်းသွားမည် ဖြစ်ပါသည်။

## 'ပြည်ပငွေပေးငွေယူရှင်းတမ်း' ဆိုတာဘာလဲ

နိုင်ငံတစ်နိုင်ငံ၏ ပြည်ပငွေပေးငွေယူရှင်းတမ်း (Balance of payment) သည် ဝင်လာသောငွေပမာဏနှင့် ထွက်သွားသောငွေပမာဏတို့၏ ခြားနားချက် ဖြစ်ပါသည်။ ၎င်းတွင် အပိုင်းနှစ်ပိုင်းရှိပါသည်။ သာမန်စာရင်းတွင် ကုန်စည်များ၊ ဝန်ဆောင်မှုများ၊ ရင်းနှီးမြှုပ်နှံမှုဝင်ငွေများနှင့် ငွေလွှဲပို့မှုများ၊ ပြည်ပထောက်ပံ့ငွေများကဲ့သို့သော တစ်လမ်းသွားလွှဲပြောင်းမှုများ ပါဝင်ပါသည်။

ငွေလုံးငွေရင်းစာရင်းတွင် ပြည်ပတွင် နိုင်ငံကပိုင်ဆိုင်သော ပိုင်ဆိုင်ပစ္စည်းများ၊ ပြည်တွင်းရှိ နိုင်ငံခြားပိုင် ပိုင်ဆိုင်ပစ္စည်းများ၊ ငွေချေးစာချုပ်များနှင့် ငွေကြေးများကဲ့သို့ငွေကြေးဆိုင်ရာစာချုပ်စာတမ်းများ ပါဝင်ပါသည်။ သီအိုရီအရ ပြည်ပငွေပေးငွေယူရှင်းတမ်းသည် သုညဖြစ်သင့်ပါသည်။ သို့ရာတွင် မည်သည့်အခါမျှ ထိုသို့မဖြစ်ပါ။ အနှုတ်

လက္ခဏာလက်ကျန်သည် ဝင်လာသည့်ငွေထက် ထွက်သွားသည့်ငွေက များနေခြင်းဖြစ်ပြီး အပြန်အလှန်အားဖြင့် အပေါင်းလက္ခဏာလက်ကျန်သည် ထွက်သွားသည့်ငွေထက် ဝင်လာသည့်ငွေက များနေခြင်းဖြစ်သည်။

နိုင်ငံတစ်နိုင်ငံသည် ကုန်ပစ္စည်းများနှင့်ဝန်ဆောင်မှုများကို ၎င်းကရောင်းချသည်ထက် ပို၍ဝယ်ယူပြီး သုံးငွေက ဝင်ငွေထက် ပိုမိုများပြားနေလျှင် ၎င်းတွင် သာမန်စာရင်းလိုငွေ၊ သို့မဟုတ် ကုန်သွယ်မှုလိုငွေရှိနေပြီ ဖြစ်သည်။ သာမန်စာရင်းလိုငွေတစ်ရပ်ကို ဟန်ချက်ညီအောင်ထိန်းရန်အတွက် နိုင်ငံတစ်နိုင်ငံသည် ၎င်းဝယ်ယူသော (ငွေချေးစာချုပ်များကဲ့သို့) ငွေလုံးငွေရင်း ပိုင်ဆိုင်ပစ္စည်းများထက် ပို၍များသော ငွေလုံးငွေရင်း ပိုင်ဆိုင်ပစ္စည်းများကို ရောင်းချခြင်းဖြင့် ငွေလုံးငွေရင်း ပိုငွေတစ်ရပ်ကို ဖန်တီးပါသည်။

အမေရိကန်နိုင်ငံကဲ့သို့ ကုန်သွယ်မှုလိုငွေရှိသော နိုင်ငံများသည် ၎င်းတို့၏ သုံးစွဲမှုများကို ပေးချေရန်အတွက် ပြည်ပမှငွေများကို ချေးယူပါသည်။ ဤသို့ဆောင်ရွက်ခြင်းသည် ပြစ်တင်ဝေဖန်ခြင်းများကို ဖိတ်ခေါ်နေပါသည်။

**'အရင်းအနှီးထိန်းချုပ်မှု' ဆိုတာဘာလဲ**

နိုင်ငံနယ်စပ်များကို ဖြတ်ကျော်၍ လူတို့က ပစ္စည်းများရောင်းဝယ်ကြသောအခါ နိုင်ငံထဲသို့ဝင်ထွက်နေသည့်ငွေ၊ သို့မဟုတ် ငွေကြေးကို အရင်းအနှီးစီးဆင်းမှုဟု ခေါ်ပါသည်။ အရင်းအနှီးစီးဆင်းမှုသည် ကုမ္ပဏီတစ်ခုထဲသို့ နိုင်ငံခြားမှ တိုက်ရိုက်ရင်းနှီးမြှုပ်နှံမှု၊ သို့မဟုတ် အိမ်ခြံမြေများ၊ Derivative များ၊ သို့မဟုတ် ငွေကြေးများ ဝယ်ယူရောင်းချခြင်း စသည့် ပုံစံအမျိုးမျိုး ရှိပါသည်။

အရင်းအနှီးစီးဆင်းမှုတွင် အကျိုးအမြတ်များရှိပါသည်။ ဆင်းရဲသောနိုင်ငံများသည် ဖွံ့ဖြိုးရေးအတွက် ရန်ပုံငွေထောက်ပံ့ခြင်းကို ရယူနိုင်ပြီး အစိုးရများသည် လိုအပ်သလိုငွေကိုချေးယူ၊ ချေးပေးနိုင်ပါသည်။ သို့ရာတွင် လွတ်လပ်သော အရင်းအနှီးစီးဆင်းမှုများသည် နိုင်ငံများကို

အားနည်းမှု ဖြစ်စေနိုင်ပါသည်။ များပြားသော စီးဝင်မှုများသည် ငွေကြေးဖောင်းပွမှုနှင့် ကြွေးမြီများကိုဖြစ်ပေါ်စေနိုင်ပြီး များပြားသောစီးထွက်မှုများသည် ငွေကြေးတစ်ခု၏တန်ဖိုးကိုကျဆင်းစေပါသည်။

အစိုးရတစ်ရပ်သည် ၎င်း၏စီးပွားရေးကို ကာကွယ်စောင့်ရှောက်ရန်အတွက် အရင်းအနှီးထိန်းချုပ်မှု (Capital Control) များကို ပြုလုပ်နိုင်ပါသည်။ ယင်းသို့သော ထိန်းချုပ်မှုများသည် နိုင်ငံအတွင်း အရင်းအနှီးများ၏ အဝင်အထွက်ကို ကန့်သတ်ပေးပါသည်။ ၁၉၇၀ ခုနှစ်မှစတင်၍ ခေတ်ပေါ်စီးပွားရေးပညာရှင်များက အရင်းအနှီးထိန်းချုပ်မှုများကို ဟန့်တားခဲ့ကြပါသည်။ သို့ရာတွင် ၎င်းထိန်းချုပ်မှုများသည် ထွန်းသစ်စစီးပွားရေးများအတွက် ခမ်းနားထည်ဝါစွာ ပြန်လည်ရောက်ရှိလာနိုင်ပါသည်။

အရင်းအနှီးစီးဆင်းမှုများကို စည်းကမ်းထိန်းသိမ်းခြင်းသည် စွန့်စားရောင်းဝယ်သော တိုက်ခိုက်မှုများကို ကြိုတင်ကာကွယ်ပြီး ပြည်တွင်းငွေကြေးမူဝါဒနှင့် အလုပ်လက်မဲ့ဖြစ်ပွားမှုကို ထိန်းချုပ်ရန် နိုင်ငံများကို အကူအညီပေးနိုင်ပါသည်။

## ‘သွင်းကုန်ထိန်းချုပ်ရေးမူဝါဒ’ ဆိုတာဘာလဲ

သွင်းကုန်ထိန်းချုပ်ရေးမူဝါဒ (Protectionism) သည် အစိုးရများက စီးပွားရေးလုပ်ငန်းများနှင့် ပြည်တွင်းမှ အလုပ်သမားများကို ကာကွယ်စောင့်ရှောက်ရန် နိုင်ငံများအကြားကုန်သွယ်မှုကို ကန့်သတ်သည့်မူဝါဒ ဖြစ်ပါသည်။ ၎င်းသည် ကုန်ပစ္စည်းနှင့် ဝန်ဆောင်မှုများကို ရောင်းလိုအားနှင့် ဝယ်လိုအားအရ နိုင်ငံများအကြား လွတ်လပ်စွာ ရွေ့လျားစေသည့် လွတ်လပ်သောကုန်သွယ်မှုနှင့် ဆန့်ကျင်ဘက်ဖြစ်ပါသည်။ ၎င်းသည် သွင်းကုန်စျေးနှုန်းများကို မြင့်တက်စေသည့် သွင်းကုန်ခွဲတမ်းများ၊ သို့မဟုတ် ကန့်သတ်ချက်များ၊ သွင်းကုန်အခွန်များပုံစံသော်လည်းကောင်း၊ ကုမ္ပဏီများကိုကူညီပံ့ပိုးရန် အစိုးရကပေးသည့် ထောက်ပံ့ငွေများပုံစံသော်လည်းကောင်း. ဖြစ်နိုင်ပါသည်။

ဤမူဝါဒများသည် စီးပွားရေးလုပ်ငန်းများကို နိုင်ငံခြားယှဉ်ပြိုင်မှုမှကာကွယ်ရန်၊ အလုပ်အကိုင်များကို ကာကွယ်ရန်နှင့် အမျိုးသားကြီးပွားချမ်းသာရေးကို သေချာစေရန် ရည်ရွယ်ပါသည်။ သွင်းကုန်ထိန်းချုပ်သောမူဝါဒများသည် ဈေးကွက်ကိုပုံပျက်စေသည့်အတွက် ၎င်းတို့က ကူညီသည်ထက် ထိခိုက်မှုကို ပို၍ဖြစ်စေသည်ဟု စီးပွားရေးပညာရှင်များစွာက ယူဆကြသော်လည်း ၎င်းတို့သည် ယခုထက်တိုင် အများအပြား ရှိနေပါသေးသည်။ အမေရိကန်နိုင်ငံနှင့် ဥရောပသမဂ္ဂသည် ဆင်းရဲသောနိုင်ငံများ၏ ပို့ကုန်များကို ထိခိုက်နစ်နာစေသည့် စိုက်ပျိုးရေးထောက်ပံ့ငွေများ၊ သွင်းကုန်ထိန်းချုပ်သောမူဝါဒများအတွက် မကြာခဏ ပြစ်တင်ဝေဖန်ခံနေရပါသည်။

## 'ယူရို' ဆိုတာဘာလဲ

'ယူရို' (Euro) သည် ဥရောပငွေကြေး ဖြစ်ပါသည်။ ၁၉၉၉ ခုနှစ်တွင် နိုင်ငံ ၁၁ နိုင်ငံ၌ စတင်သုံးစွဲခဲ့သော ယူရိုကို ယခုအခါ ဥရောပသမဂ္ဂအဖွဲ့ဝင်နိုင်ငံပေါင်း ၂၇ နိုင်ငံရှိသည့်အနက် ၁၆ နိုင်ငံတွင် သုံးစွဲနေပါသည်။ 'ယူရိုဇုန်' သည် စီးပွားရေးစွမ်းဆောင်ရည်ရှိမှုကို အများဆုံးဖြစ်စေရန် ဒေသတစ်ခုက ငွေကြေးတစ်ခုကို မျှဝေသုံးစွဲသော အကောင်းဆုံးသော ငွေကြေးနယ်ပယ်တစ်ခု၏ အကြီးဆုံးဥပမာ ဖြစ်ပါသည်။

'ယူရို' သည် ငွေကြေးလဲလှယ်ရသည့် ကုန်ကျစရိတ်များကို သက်သာစေပါသည်။ ငွေကြေးလဲလှယ်နှုန်း၏ စွန့်စားမှုများကို ဖယ်ရှားပေးပါသည်။ ကုန်ပစ္စည်းများ၊ ငွေကြေးဆိုင်ရာ ရရန်ပိုင်ခွင့်များနှင့် လူများ၏ရွေ့လျားမှုကို တိုးတက်စေခဲ့ပါသည်။ 'ယူရို' သည် အားနည်းသောစီးပွားရေးများကို ပိုမိုခိုင်မာတောင့်တင်းလာရန်၊ အရင်းအနှီးများရရှိရန်၊ ရင်းနှီးမြှုပ်နှံမှုများကိုဆွဲဆောင်ရန် ကူညီခဲ့ပါသည်။ သို့ရာတွင် အသင်းထဲသို့ဝင်ရန်အတွက်မူ နိုင်ငံများအနေဖြင့် တင်းကျပ်သော စံနှုန်းများကို ပြည့်မီရမည် ဖြစ်ပါသည်။ ဗြိတိန်နိုင်ငံကဲ့သို့သော အချို့သော အီးယူအဖွဲ့ဝင်များသည် ၎င်းတို့၏ ကိုယ်ပိုင်အတိုးနှုန်းများ သတ်မှတ်နိုင်

စွမ်းကို ဆုံးရှုံးမည်ဖြစ်သောကြောင့် အသင်းထဲသို့ဝင်ရန် ငြင်းဆန်ကြပါသည်။ ၎င်း၏သြဇာရှိမှုသည် အရေးကြီးပါသည်။ ၂၀၀၈ ခုနှစ်တွင် ယူရိုသည် အမေရိကန်ဒေါ်လာကို ဖြတ်ကျော်သွားပြီး လှည့်လည်သုံးစွဲငွေအများဆုံးရှိသောငွေကြေး ဖြစ်လာခဲ့ပါသည်။

**'IMF' ဆိုတာဘာလဲ**

အပြည်ပြည်ဆိုင်ရာငွေကြေးစနစ်ကိုစောင့်ကြည့်၍ တည်ငြိမ်အောင်လုပ်ရန်အတွက် ၁၉၄၄ ခုနှစ်တွင် အပြည်ပြည်ဆိုင်ရာ ငွေကြေးရန်ပုံငွေအဖွဲ့ (International Monetary Fund - IMF) မွေးဖွားခဲ့ပါသည်။ ၎င်းသည် အဖွဲ့ဝင်များ၏စီးပွားရေးများကို စောင့်ကြည့်စစ်ဆေးပါသည်။ အထူးသဖြင့် ငွေကြေးလဲလှယ်နှုန်းနှင့် ပြည်ပငွေပေးငွေယူရှင်းတမ်းများကို စောင့်ကြည့်စစ်ဆေး၍ တည်ငြိမ်မှုကိုထိန်းသိမ်းရန်နှင့် အကျပ်အတည်းများကို ကာကွယ်တားဆီးရန် ချေးငွေများထုတ်ပေးပါသည်။

၎င်း၏ အဖွဲ့ဝင်နိုင်ငံပေါင်း ၁၈၆ နိုင်ငံထဲမှ တစ်နိုင်ငံစီတွင် ၎င်း၏ စီးပွားရေးအရွယ်အစားအပေါ်တွင် အခြေခံ၍ ခွဲတမ်းတစ်ခုရှိပြီး ၎င်းခွဲတမ်းသည် ၎င်းနိုင်ငံ၏ အဖွဲ့ဝင်ကြေး၊ မဲပေးပိုင်ခွင့်နှင့် ချေးငွေရယူပိုင်ခွင့်များကိုအဆုံးအဖြတ်ပေးပါသည်။ အဖွဲ့ဝင်ကြေး၏ အစိတ်အပိုင်းကို 'Special Drawing Rights' (အထူးငွေထုတ်ယူခွင့်) ဖြင့် ပေးချေကြပါသည်။ ၎င်းအထူးငွေထုတ်ယူခွင့်သည် စာရင်းများအတွက်နှင့် တစ်ကမ္ဘာလုံး၏ ငွေဖြစ်လွယ်မှုကို တိုးတက်စေရန် IMF က တမင်ဖန်တီးအသုံးပြုသည့် ငွေကြေးတစ်ရပ် ဖြစ်ပါသည်။

၁၉၈၀ ပြည့်လွန်နှစ်များတွင် IMF သည်လည်း ၎င်း၏အစီအစဉ်တွင် စီးပွားရေးတိုးတက်မှုကို ထည့်သွင်း၍ ကြွေးမြီများကိုလျှော့ချရန်၊ ကုန်သွယ်မှုနှင့် ထုတ်လုပ်မှုကို တွန်းအားပေးရန်အတွက် ဆင်းရဲသောနိုင်ငံများသို့ ငွေချေးခဲ့ပါသည်။ သို့ရာတွင် ၎င်း၏ချေးငွေများနှင့်အတူ 'စည်းကမ်းသတ်မှတ်ချက်များ' ပါလာခဲ့ပါသည်။ ချေးငွေရယူသောနိုင်ငံများသည် IMF ၏ လွတ်လပ်သော ဈေးကွက်စည်းမျဉ်း

များကို လိုက်နာရမည်ဖြစ်ပြီး ၎င်းစည်းမျဉ်းများသည် အကူအညီထက် ထိခိုက်မှုက မကြာခဏ ပို၍များနေတတ်ပါသည်။

‘ကမ္ဘာ့ဘဏ်’ ဆိုတာဘာလဲ

ဖွံ့ဖြိုးတိုးတက်ရေးကိုမြှင့်တင်၍ ဆင်းရဲမွဲတေမှုကို လျှော့ချရန် အတွက် IMF နှင့်အတူ ၁၉၄၄ ခုနှစ်တွင် ကမ္ဘာ့ဘဏ် (World Bank) ကို တည်ထောင်ခဲ့ပါသည်။ ကမ္ဘာ့ဘဏ်သည် ချေးငွေများကိုဖန်တီး၍ နိုင်ငံ များကို ကူညီရန်အတွက် ကျန်းမာရေး၊ ပညာရေး၊ အခြေခံအဆောက် အအုံ၊ ဆက်သွယ်ရေးနှင့် အစိုးရများကိုတိုးတက်စေရန်အတွက် နည်းပညာ ကျွမ်းကျင်မှုများကို ပေးပါသည်။

Millenium Development Goals (MDG) ဟု ခေါ်သော ကုလသမဂ္ဂထောင်စုနှစ် ဖွံ့ဖြိုးရေးရည်မှန်းချက် ၈ ရပ်ကို ၂၀၁၅ ခုနှစ် အကုန်တွင် ရရှိအောင်ဆောင်ရွက်ရေးအတွက် ကမ္ဘာ့ဘဏ်ကိုတာဝန် ပေးအပ်ခဲ့ပါသည်။ ၎င်းရည်မှန်းချက်များတွင် ကမ္ဘာလုံးဆိုင်ရာ အခြေခံ ပညာရေး၊ အမျိုးသမီးများ စွမ်းဆောင်ရည်မြှင့်မားရေး၊ ရေရှည်ဖွံ့ဖြိုး တိုးတက်ရေး၊ HIV နှင့် ငှက်ဖျားရောဂါတိုက်ဖျက်ရေးနှင့် အလွန်အကျွံ ဆင်းရဲမွဲတေမှုအမြစ်ဖြတ်ဖယ်ရှားရေးများ ပါဝင်ပါသည်။

ဤသို့ ကြီးမားသော ရည်မှန်းချက်များရှိနေသော်လည်း ၎င်း၏ လွတ်လပ်သောဈေးကွက်မူဝါဒနှင့် ‘အရွယ်အစားတစ်ခုက အားလုံးနှင့် ကိုက်ညီသည်’ ဟူသော မူဝါဒများသည် ၎င်းတို့ဖယ်ရှားပေးသည့် ဆင်းရဲ မွဲတေမှုထက် ပို၍များပြားသော ဆင်းရဲမွဲတေမှုကို ဖန်တီးခဲ့သည်ဟု ဝေဖန်သူများက ပြောကြပါသည်။

လုပ်ပိုင်ခွင့်အာဏာသည်လည်း ညီမျှမှု မရှိပါ။ မူဝါဒများသည် ဆင်းရဲသောနိုင်ငံများအပေါ်တွင် အဓိက သက်ရောက်မှုရှိသော်လည်း ချမ်းသာသောနိုင်ငံများသည် မဲပေးသည့် လုပ်ငန်းစဉ်တွင် ပြောဆိုပိုင်ခွင့် ပိုရှိပြီး ခေါင်းဆောင်ပိုင်းကို ၎င်းတို့က ရွေးချယ်ပါသည်။



**'WTO' ဆိုတာဘာလဲ**

ကမ္ဘာ့ကုန်သွယ်ရေးအဖွဲ့ကြီး (World Trade Organization - WTO) သည် ကုန်သွယ်မှုချောမွေ့စွာ ကြိုတင်ခန့်မှန်း၍ရအောင်၊ လွတ်လပ်စွာစီးဆင်းခြင်းကို သေချာစေရန် နိုင်ငံများအကြား ကုန်သွယ်ရေးမူဝါဒကို စည်းကမ်းသတ်မှတ်ပေးပါသည်။ ယခင်က General Agreement on Tariffs and Trade (GATT) (အကောက်ခွန်နှင့် ကုန်သွယ်မှုဆိုင်ရာ အထွေထွေသဘောတူညီချက်) ဟု ခေါ်ခဲ့သော သဘောတူညီချက်ကို ၁၉၉၅ ခုနှစ်တွင် အမြဲတမ်း မူဘောင်တစ်ခုနှင့် အတူ ပိုမိုကျယ်ပြန့်သောနေရာများသို့ ရောက်ရှိသည့် WTO အဖြစ် ပြန်လည်ဖွဲ့စည်းခဲ့ပါသည်။

အဖွဲ့ဝင်နိုင်ငံပေါင်း ၁၅၃ နိုင်ငံက စေ့စပ်ညှိနှိုင်း၍ ၎င်းတို့၏ အစိုးရများက သဘောတူညီ လက်မှတ်ရေးထိုးထားသော WTO သဘောတူညီချက်များသည် အပြည်ပြည်ဆိုင်ရာကုန်သွယ်မှုအတွက် တရားဝင်လမ်းညွှန်ချက်များအဖြစ် ဆောင်ရွက်ပေးပါသည်။ နိုင်ငံတစ်နိုင်ငံသည် WTO သဘောတူညီချက်များကို ချိုးဖောက်၍ တိုးတက်အောင်ဆောင်ရွက်ရန် ငြင်းဆန်လျှင် မကျေနပ်သောနိုင်ငံသည် အရေးယူဒဏ်ခတ်မှုဟုခေါ်သော ကုန်သွယ်မှုအပေါ်တွင် ကန့်သတ်ပိတ်ပင်မှုများကို ချမှတ်နိုင်ပါသည်။

၎င်း၏မူဝါဒများသည် စီးပွားရေးလောကကြီးကို ပို၍ကြီးပွားချမ်းသာအောင်၊ ပို၍ငြိမ်းချမ်းအောင်၊ ပို၍ တာဝန်ယူနိုင်အောင် ဆောင်ရွက်ပေးနေသည်ဟု WTO ကဆိုနေသော်လည်း လူတိုင်းက သဘောတူညီကြသည်ကားမဟုတ်ပါ။ အသိဉာဏ်ပစ္စည်းဆိုင်ရာ အခွင့်အရေးများကို အတည်ပြုခဲ့သော ၎င်း၏ TRIPS သဘောတူညီချက်သည် ဆင်းရဲသောနိုင်ငံများအနေဖြင့် မူပိုင်ခွင့်ဖြင့် ကာကွယ်ထားသောဆေးဝါးများကို သုံးစွဲရန်တတ်နိုင်ခြင်းမရှိသည်က များသည်ဟူသောအဓိပ္ပာယ်ကို ဆောင်နေပါသည်။

**'ရွှေစံချိန်' ဆိုတာဘာလဲ**

ရွှေစံချိန် (Gold Standard) သည် နိုင်ငံများက ၎င်းတို့၏ ငွေကြေးတန်ဖိုးများကို ရွှေဖြင့်သတ်မှတ်ထားသော ပုံသေဈေးနှုန်းဖြင့် သတ်မှတ်ရန်သဘောတူသော ပုံသေသတ်မှတ်ထားသော ငွေကြေး လဲလှယ်နှုန်းများ၏ စနစ်တစ်ခု ဖြစ်ပါသည်။

ရွှေစံချိန် (Gold standard) သည် ပုံသေသတ်မှတ်ထားသော ငွေကြေးလဲလှယ်နှုန်းများ၏ စနစ်တစ်ခု ဖြစ်ပါသည်။ နိုင်ငံများက ၎င်းတို့၏ ငွေကြေးတန်ဖိုးများကို ရွှေဖြင့်သတ်မှတ်ထားသော ပုံသေ ဈေးနှုန်းဖြင့် သတ်မှတ်ရန်သဘောတူထားကြပါသည်။ ၁၈၇၉ ခုနှစ်မှ ၁၉၁၄ ခုနှစ်အထိ ကုန်သွယ်သော ခေတ်မီနိုင်ငံများစွာသည် ကုန်သွယ် မှုစာရင်းများကို ထိန်းညှိရန်အတွက် ရွှေစံချိန်ကို အသုံးပြုခဲ့ကြပါသည်။ သို့ရာတွင် စစ်ကြီးဖြစ်ပွားသောအခါ ရွှေစံချိန်လည်း ပြိုလဲပျက်စီး သွားခဲ့ပါသည်။

၁၉၄၆ ခုနှစ်တွင် ၎င်းကို တစ်ဖန်ပြန်၍ လက်ခံကျင့်သုံးခဲ့ကြ ပါသည်။ ဤအကြိမ်တွင်မူ ရွှေ၏ဈေးနှုန်းကို တစ်အောင်စလျှင် ၃၅ ဒေါ်လာသတ်မှတ်၍ နိုင်ငံများသည် ရွှေကိုအမေရိကန်ဒေါ်လာဖြင့် ရောင်းဝယ်နိုင်ခဲ့ကြပါသည်။ ယင်းသို့ဆောင်ရွက်ခြင်းသည် တည်ငြိမ်မှုကို ဖန်တီးပေးသော်လည်း အဆိုးဘက်ပိုင်းများလည်း ရှိနေခဲ့ပါသည်။ နှုန်းများကို ပုံသေသတ်မှတ်ပေးလျှင် နိုင်ငံများသည် ငွေကြေးဖောင်းပွမှု၊ အလုပ်လက်မဲ့ဖြစ်ပွားမှု၊ သို့မဟုတ် စီးပွားရေးအကျပ်အတည်းများကို ကိုင်တွယ်ဆောင်ရွက်ရန်အတွက် ၎င်းနှုန်းများကို လိုအပ်သလို ကစား၍ ရတော့မည်မဟုတ်ပါ။

၁၉၇၁ ခုနှစ်တွင် ငွေကြေးဖောင်းပွမှုကြောင့် အမေရိကန် နိုင်ငံသည် ရွှေစံချိန်ကိုချခဲ့ပါသည်။ တစ်ကမ္ဘာလုံးတွင် တိုးပွားလာသော လည်ပတ်ငွေကို ကျောထောက်နောက်ခံပြုရန်အတွက် ရွှေအလုံ အလောက် မရှိတော့သောကြောင့် ဖြစ်ပါသည်။ ယခုအခါ မည်သည့် အရာနှင့်မျှ သတ်မှတ်ပေးမထားသော ရွှေအာမခံမဲ့ငွေစက္ကူကို ကျွန်ုပ်တို့

သုံးစွဲနေကြပါသည်။ အစိုးရများကအာမခံပြီး လူတိုင်းက ယုံကြည်စိတ်ချကြသောကြောင့်သာ ငင်းငွေများတန်ဖိုးရှိနေခြင်း ဖြစ်ပါသည်။

## 'Bretton Woods' ဆိုတာဘာလဲ

၁၉၄၄ ခုနှစ်တွင် နိုင်ငံပေါင်း ၄၄ နိုင်ငံသည် စစ်ပြီးကာလစီးပွားရေးနှင့် အပြည်ပြည်ဆိုင်ရာပူးပေါင်းဆောင်ရွက်မှုကို ပြန်လည်တည်ဆောက်ရန်အတွက် New Hampshire ပြည်နယ်၊ Bretton Woods မြို့တွင် တွေ့ဆုံခဲ့ပါသည်။ ဤအစည်းအဝေးသည် အပြည်ပြည်ဆိုင်ရာငွေကြေးစနစ်ကို ထိန်းချုပ်ရန်အတွက် စည်းမျဉ်းများ၊ အဖွဲ့အစည်းများနှင့် လုပ်ထုံးလုပ်နည်းများကို ထူထောင်ရန်အတွက် နိုင်ငံအများတွေ့ဆုံကြသော ပထမဆုံးအကြိမ် ဖြစ်ပါသည်။

ပူးပေါင်းဆောင်ရွက်မှုကိုလိုအပ်ကြောင်း အတိတ်က အတွေ့အကြုံများက ပြခဲ့သဖြင့် ဤဆွေးနွေးပွဲက IMF နှင့် ကမ္ဘာ့ဘဏ်ကိုတည်ထောင်ပြီး ရွှေစံချိန်ကို ပြန်လည်ထိန်းသိမ်းခဲ့ပါသည်။ Bretton Woods စနစ်ကို နိုင်ငံပေါင်းစုံက ပါဝင်ဆောင်ရွက်အောင်ပုံစံချခဲ့သော်လည်း လက်တွေ့တွင်မူ အဖွဲ့၏ဩဇာအကြီးမားဆုံးဖြစ်သောအမေရိကန်နိုင်ငံ၏ ညွှန်ကြားမှုကိုသာ အများဆုံးခံနေရပါသည်။

ဤစနစ်သည် အကောင်းဘက်ကိုမြင်ပါသည်။ IMF သည်အကျပ်အတည်းများကို ပိုင်နိုင်စွာကိုင်တွယ်ဖြေရှင်းရန်အတွက် လုံလောက်သော ငွေဖြစ်လွယ်မှုကိုပေးပြီး စာရင်းများကို အဓိကအားဖြင့် ချိန်ညှိနိုင်လိမ့်မည်ဟု ၎င်းက ယူဆပါသည်။ သို့ရာတွင် ၁၉၇၁ ခုနှစ်တွင် ဖွဲ့စည်းပုံပြောင်းလဲမှုများ၊ ငွေကြေးဖောင်းပွမှုနှင့် ၎င်း၏ ကုန်သွယ်ရေးလိုငွေပြမှုများက ရွှေစံချိန်ကိုချရန် အမေရိကန်နိုင်ငံကို အတင်းအကျပ်စေခိုင်းခဲ့၍ Bretton Woods အဆုံးသတ်သွားခဲ့ပါသည်။

## 'OECD' ဆိုတာဘာလဲ

စီးပွားရေးပူးပေါင်းဆောင်ရွက်ရေးနှင့် ဖွံ့ဖြိုးရေးအဖွဲ့ကြီး

(Organization for Economic Co-operation and Development - OECD) သည် ဒီမိုကရေစီနှင့် ဈေးကွက်စီးပွားရေးကို မြှင့်တင်ရန် လုပ်ကိုင်နေသော နိုင်ငံပေါင်းသုံးဆယ်ပါဝင်သည့်အဖွဲ့ကြီး ဖြစ်ပါသည်။ ဤအဖွဲ့ကြီးကို ၁၉၆၁ ခုနှစ်က တည်ထောင်ခဲ့ပြီး အမေရိကန်နှင့် ဂျပန်ကဲ့သို့ ဥရောပမဟုတ်သောနိုင်ငံများ ပါဝင်လာအောင်တိုးချဲ့ခဲ့ပါသည်။

ၶင်းသည် ချမ်းသာသောနိုင်ငံများ၏ အသင်းတစ်သင်း ဖြစ်ပါသည်။ အဖွဲ့ဝင်အများစုသည် ချမ်းသာသော၊ သို့မဟုတ် မက္ကဆီကို၊ ပိုလန်နှင့် တူရကီနိုင်ငံများကဲ့သို့ ချမ်းသာလာနေသောနိုင်ငံများ ဖြစ်ပါသည်။ OECD ၏ ရည်မှန်းချက်များတွင် သဘာဝပတ်ဝန်းကျင်ကို မထိခိုက်သော စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု၊ အလုပ်အကိုင်ရရှိမှုမြင့်မားမှု၊ ဘဏ္ဍာရေးတည်ငြိမ်မှု၊ ကမ္ဘာ့ကုန်သွယ်ရေးတိုးတက်ဖွံ့ဖြိုးမှုနှင့် နိုင်ငံများ တိုးတက်ဖွံ့ဖြိုးအောင် ကူညီရေးများ ပါဝင်ပါသည်။

ဤအဖွဲ့အစည်းကြီးသည် အရေးပါသော စာရင်းအင်းဆိုင်ရာ အရင်းအမြစ်တစ်ခုဖြစ်ပြီး ကုန်သွယ်မှု၊ နည်းပညာနှင့် အခွန်စည်းကြပ်မှုကဲ့သို့သောအရာများ၏ ပြောင်းလဲနေသောပုံစံများကိုလည်း ဤအဖွဲ့အစည်းကြီးက ကြိုတင်ခန့်မှန်း၍ လေ့လာပါသည်။ ၂၀၁၀ ပြည့်နှစ်၊ ဇန်နဝါရီလတွင် ချီလီနိုင်ငံ၏ ဝင်ရောက်မှုကိုအတည်ပြုခဲ့သဖြင့် ချီလီနိုင်ငံသည် ၃၁ နိုင်ငံမြောက်အဖွဲ့ဝင်နှင့် လက်တင်အမေရိကဒေသမှ ပထမဆုံးအဖွဲ့ဝင်နိုင်ငံ ဖြစ်လာခဲ့ပါသည်။

### 'ဝါရှင်တန်သဘောတူညီချက်' ဆိုတာဘာလဲ

ဝါရှင်တန်သဘောတူညီချက် (Washington Consensus) သည် ဖွံ့ဖြိုးဆဲနိုင်ငံများအတွက် လွတ်လပ်သောဈေးကွက်မူဝါဒဆိုင်ရာ အကြံပြုထောက်ခံချက်များ ဖြစ်ပါသည်။ ၁၉၈၀ ပြည့်လွန်နှစ်များ၏ နောက်ပိုင်းတွင် IMF နှင့် ကမ္ဘာ့ဘဏ်တို့က ဖော်ထုတ်ခဲ့သော ဤသဘောတူညီချက်များက ဖွံ့ဖြိုးရေးအတွက် အဓိကသော့ချက်မှာ ကန့်သတ်ချက်များကို လျှော့ပေးခြင်းနှင့် မျှတမှုရှိသော ဘတ်ဂျက်ဖြစ်သည်ဟု အခိုင်အမာ

ဆိုထားပါသည်။ ဖွံ့ဖြိုးတိုးတက်ရန်အတွက် နိုင်ငံများသည် ငွေကြေး လည်ပတ်မှုကို တည်ငြိမ်အောင်လုပ်ရန်၊ ငွေကြေး ဖောင်းပွမှုကိုလျှော့ချ ရန်နှင့် လွတ်လပ်သောကုန်သွယ်မှုအတွက် ၎င်းတို့၏နယ်စပ်များကို ဖွင့်ထားပေးရန် လိုအပ်ပါသည်။

နိုင်ငံပိုင်စီးပွားရေးလုပ်ငန်းများကို ပုဂ္ဂလိကပိုင်ပြုလုပ်ခြင်း၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံစုံမှစီးပွားရေး လုပ်ငန်းများအတွက် နယ်စပ်များကို ဖွင့်ပေးခြင်းနှင့် ဘတ်ဂျက်ကို မျှတအောင်လုပ်ခြင်းများ သည်လည်း အဓိကကျပါသည်။ 'လစ်ဘရယ်လက်သစ်ဝါဒ' နှင့် မကြာ ခဏ အလဲအလှယ်လုပ်၍ အသုံးပြုသော ဤသဘောတူညီချက်သည် ဖွံ့ဖြိုးဆဲကမ္ဘာတွင် မှားယွင်းသွားသောအရာများအတွက် မကြာခဏ အပြစ်တင်ခြင်းခံရပါသည်။

၎င်း၏ 'အရွယ်အစားတစ်ခုတည်းက အားလုံးနှင့်ကိုက်ညီသည်' ဟူသောမူဝါဒများသည် အချို့သော ဒေသဆိုင်ရာအခြေအနေများကို ထည့်သွင်းစဉ်းစားရန်ပျက်ကွက်မှုအတွက် ပြစ်တင်ဝေဖန်ခြင်းခံခဲ့ ရပါသည်။

## 'ဖွဲ့စည်းပုံဆိုင်ရာကိုက်ညှိပြုပြင်မှု' ဆိုတာဘာလဲ

ဝါရှင်တန်သဘောတူညီချက်များသည် လမ်းညွှန်ချက်များဖြစ် လျှင် ဖွဲ့စည်းပုံဆိုင်ရာကိုက်ညှိပြုပြင်မှုမူဝါဒ (Structural Adjustment Policies - SAP) များက ဤလမ်းညွှန်ချက်များကို ပြဋ္ဌာန်းချက်များ အဖြစ်သို့ ပြောင်းလဲပေးပါသည်။ ဆင်းရဲသောနိုင်ငံများက IMF ၊ သို့မဟုတ် ကမ္ဘာ့ဘဏ်မှ ချေးငွေများကိုရယူလိုသောအခါ ငွေများကို ၎င်းတို့၏ သုံးစွဲပုံသုံးစွဲနည်းကို ထိန်းချုပ်ပေးသည့် သတ်မှတ်ချက်များကို သဘောတူရပါသည်။

ဤသတ်မှတ်ချက်များသည် ယေဘုယျအားဖြင့် ဝါရှင်တန် သဘောတူညီချက်၏ အခြေခံသဘောတရားများဖြစ်သော တည်ငြိမ် အောင်လုပ်ခြင်း၊ လွတ်လပ်စေခြင်း၊ ပုဂ္ဂလိကပိုင်ပြုလုပ်ခြင်း၊ ကမ္ဘာအနှံ့

ရောက်အောင်လုပ်ခြင်း၊ ဘတ်ဂျက်ကို မျှတအောင်လုပ်ခြင်းများကို လိုက်နာပါသည်။ သီအိုရီအရ ဆင်းရဲသောနိုင်ငံများကို ဈေးကွက်စီးပွားရေးပို၍ဖြစ်အောင်တွန်းပေးခြင်းသည် ကုန်သွယ်မှုနှင့် ထုတ်လုပ်မှုကို မြှင့်တင်ပေးပြီး ၎င်းတို့၏ စီးပွားရေးများကို တိုးတက်ဖွံ့ဖြိုးစေရန် ကူညီပါလိမ့်မည်။

SAP များသည် ငွေပေးငွေယူရှင်းတမ်းအပေါ်တွင် ကောင်းသောသက်ရောက်မှုအချို့ ရှိပါသည်။ သို့ရာတွင် ဆင်းရဲမွဲတေမှုနှင့် လူသားများ၏ ကျန်းမာပျော်ရွှင်မှုအပေါ်တွင် ၎င်းတို့၏ သက်ရောက်မှုများသည် မကြာခဏ ပြစ်တင်ဝေဖန်ခံနေရပါသည်။ အစိုးရများစွာသည် အလုပ်အကိုင်များကို သိသိသာသာလျှော့ချ၍လည်းကောင်း၊ ပညာရေးနှင့် ကျန်းမာရေးအတွက်လျှော့၍လည်းကောင်း သုံးစွဲခဲ့ရပြီး အတက်အကျများသော အတိုးနှုန်းများက ကြွေးမြီများကို လျော့နည်းမသွားစေဘဲ ပို၍များလာစေခဲ့ပါသည်။

## Seattle မြို့မှာ ဘာတွေဖြစ်ခဲ့သလဲ

၁၉၉၉ ခုနှစ်တွင် အမေရိကန်နိုင်ငံ၊ Seattle မြို့၌ WTO ကိုယ်စားလှယ်များ တွေ့ဆုံကြသောအခါ နိုင်ငံပေါင်း ၈၇ နိုင်ငံမှ လူပေါင်း ၅၀,၀၀၀ ကျော်သည် လွတ်လပ်သောကုန်သွယ်မှုနှင့် Globalization ကို ဆန့်ကျင်ဆန္ဒပြရန် ရောက်လာခဲ့ကြပါသည်။

လူ့အခွင့်အရေးနှင့် သဘာဝပတ်ဝန်းကျင်ကို ထည့်သွင်းစဉ်းစားခြင်းမပြုဘဲ ကုမ္ပဏီကြီးများနှင့် ချမ်းသာသောနိုင်ငံများကို ကူညီရန် ကုန်သွယ်ရေးစည်းမျဉ်းများကို ရေးဆွဲထားသည်ဟု ကန့်ကွက်ဆန္ဒပြသူများက ဆိုကြပါသည်။ လွတ်လပ်သောကုန်သွယ်မှုနှင့် ပို့ကုန်ဦးစားပေးသောဖွံ့ဖြိုးမှုသည် ဆင်းရဲမှုကိုတိုးလာစေ၍ အလုပ်အကိုင်ရရှိမှု အခြေအနေများကို ပိုမိုဆိုးဝါးစေပြီး ဆင်းရဲသောနိုင်ငံများ၏ အသံများကို ဥပေက္ခာပြုနေသည်ဟု ကန့်ကွက်ဆန္ဒပြသူများက ဆိုကြပါသည်။ ရဲများက မျက်ရည်ယိုဗုံးများနှင့် ရာဘာကျည်ဆန်များကို အသုံးပြု၍



ဖြိုခွင်းခဲ့ပြီး ကန့်ကွက်ဆန္ဒပြသူ ၅၀၀ ကျော်ကို ဖမ်းဆီးခဲ့ပါသည်။ ယင်းသို့ပြုလုပ်ခဲ့ခြင်းကြောင့် ကန့်ကွက်ဆန္ဒပြသူများ၏ အရေအတွက်ကို မီဒီယာများက ပို၍ပင် အာရုံစိုက်သွားခဲ့ပါသည်။

ဆွေးနွေးညှိနှိုင်းမှုများအထဲတွင် ဆွေးနွေးငြင်းခုံမှုများ အနည်းအကျဉ်းသာရှိပြီး သဘောတူညီချက်များကို အလောတကြီး လုပ်ဆောင်ခဲ့သဖြင့် တတိယကမ္ဘာမှ WTO ကိုယ်စားလှယ်များကလည်း ဒေါသထွက်ပြီး သဘောတူညီချက်များ ပျက်ပြားရေးကို ကူညီခဲ့ကြပါသည်။ ဆွေးနွေးညှိနှိုင်းမှုများ ပျက်ပြားခဲ့သော်လည်း အလှည့်အပြောင်းတစ်ခု ဖြစ်လာခဲ့ပါသည်။ ဝါရှင်တန်သဘောတူညီချက်သည် ပြင်းထန်စွာ စိန်ခေါ်ခြင်းခံခဲ့ရပြီး ကမ္ဘာလုံးဆိုင်ရာတက်ကြွလှုပ်ရှားသူ ကွန်ရက်သစ်များကို ဖွဲ့စည်းခဲ့ပါသည်။

## 'Multinational' ဆိုတာဘာလဲ

နိုင်ငံစုံအခြေစိုက်ကုမ္ပဏီ (Multinational)၊ သို့မဟုတ် နိုင်ငံစုံအခြေစိုက်ကော်ပိုရေးရှင်း (Multinational Corporation - MNC) ဆိုသည်မှာ တစ်နိုင်ငံထက်ပိုသော နိုင်ငံများတွင် ရုံးများ၊ စက်ရုံအလုပ်ရုံများရှိသောကုမ္ပဏီများ ဖြစ်ပါသည်။ Transnational Corporation ၊ သို့မဟုတ် Multinational Enterprise ဟုလည်း သိထားကြသော ဤကုမ္ပဏီများသည် ကမ္ဘာ့စီးပွားရေးတွင် ဩဇာကြီးမားသော လုပ်ငန်းလုပ်ကိုင်သူများ ဖြစ်ကြပါသည်။

ယခုအခါ ၎င်းတို့ကိုတွေ့ရသည်မှာ ပို၍ပို၍များလာနေပါသည်။ ယနေ့ကမ္ဘာပေါ်ရှိ အကြီးမားဆုံးစီးပွားရေး ၁၀၀ တွင် တစ်ဝက်ကျော်သည် MNC များ ဖြစ်နေပါသည်။

MNC များသည် ဈေးကွက်အသစ်များကို ဖန်တီးရန်၊ သွင်းကုန်ထိန်းချုပ်မှုဥပဒေများကို ရှောင်ကွင်းရန်၊ သယ်ယူပို့ဆောင်ရေးနှင့် လုပ်အားကိုချွေတာရန်၊ ပြောင်းလဲနေသည့် ငွေလဲလှယ်နှုန်းများကို ရှောင်ရန် နိုင်ငံရပ်ခြားတွင် လုပ်ငန်းထူထောင်ကြပါသည်။

၎င်းတို့ထံတွင်ရှိသောနိုင်ငံရေးဩဇာသည် ကြီးမားလွန်းပြီး ဆင်းရဲသောနိုင်ငံများ၏လုပ်အားနှင့် အရင်းအမြစ်များကို ခေါင်းပုံဖြတ်၍ ပြည်ပတွင် အလုပ်ထွက်လုပ်ခြင်းဖြင့် ပြည်တွင်းတွင် အလုပ်အကိုင်ဆုံးရှုံးမှုများကို ဖန်တီးနေသည်ဟု ဝေဖန်သူများက ပြောကြပါသည်။

**'Offshore' ဆိုတာဘာလဲ**

Offshore ဆိုသည်မှာ 'Tax Havens' (အခွန်လွတ်မြောက်ရာမြေ) ကိုခေါ်သောအမည်ဖြစ်ပါသည်။ တစ်နည်းအားဖြင့် အခွန်အလွန်နည်းသော၊ သို့မဟုတ် အခွန်လုံးဝမဆောင်ရသောနိုင်ငံ၊ သို့မဟုတ် နယ်မြေများ ဖြစ်ပါသည်။ များသောအားဖြင့် သေးငယ်၍ ချမ်းသာသော နိုင်ငံများဖြစ်ကြသည့် Tax Havens များသည် လျှို့ဝှက်မှုလည်း ရှိကြပါသည်။ ၎င်းတို့သည် ဘဏ္ဍာရေးဆိုင်ရာ သတင်းအချက်အလက်များကို ကာကွယ်ပေးပြီး ပွင့်လင်းမြင်သာမှုမရှိကြပါ။

၎င်းတို့သည် နိုင်ငံသားမဟုတ်သူများကို အခွန်များရှောင်၍ ငွေစုရန်၊ ၎င်းတို့၏ နယ်မြေများအတွင်းတွင် စီးပွားရေးလုပ်ငန်း ထူထောင်ရန်၊ သို့မဟုတ် ပိုင်ဆိုင်ပစ္စည်းများကို မှတ်ပုံတင်ရန် အားပေးပါသည်။ ယခုအခါ Offshore စီးပွားရေးလုပ်ငန်းအများစုသည် Mutual Fund များ၊ ဘဏ်လုပ်ငန်းများ၊ အသက်အာမခံလုပ်ငန်းများနှင့် ပင်စင်လုပ်ငန်းများကဲ့သို့ ငွေကြေးဝန်ဆောင်မှုလုပ်ငန်းများတစ်ဝိုက်တွင် ဝိုင်းဝိုင်း လည်နေပါသည်။

စီးပွားရေးလုပ်ငန်းများကို ဆွဲဆောင်ခြင်းသည် Tax Havens များအတွက် ဒေသတွင်းအလုပ်အကိုင်များ၊ ကျွမ်းကျင်မှု လွှဲပြောင်းမှုများကို တိုးပွားစေပြီး အခွန်မဆောင်ရဘဲ ဝင်ငွေနှင့်တိုးတက်မှုများကို ယူဆောင်လာနိုင်ပါသည်။ သို့ရာတွင် ဘီလီယံနှင့်ချီသော အခွန်များကို မပေးဆောင်ရသောအခါ ချမ်းသာသောပုဂ္ဂိုလ်များနှင့် ကုမ္ပဏီများသည် လူ့အဖွဲ့အစည်းအတွက် ၎င်းတို့၏ တာဝန်များကိုရှောင်နေကြသည်ဟု ဝေဖန်သူများက စွပ်စွဲကြပါသည်။

'မတရားသောအခွန်ယှဉ်ပြိုင်မှု' ကို ထိရောက်စွာနှိမ်နင်းရန် Tax Havens များကို OECD က ဖိအားပေးနေပါသည်။ အချို့သော ဥပဒေများ ပြောင်းလဲသွားသော်လည်း Offshore များကမူ ရှင်သန်နေဆဲ ဖြစ်ပါသည်။

**'အောက်ဆုံးအထိ အလျှော့ပြိုင်ခြင်း' ဆိုတာဘာလဲ**

MNC (နိုင်ငံစုံအခြေစိုက်ကော်ပိုရေးရှင်း) များသည် အလုပ်အကိုင်များ၊ အခွန်ငွေများနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုများကို ယူဆောင်လာကြသောကြောင့် ဆင်းရဲချမ်းသာမရွေးနိုင်ငံအများက MNC များကို ဆွဲဆောင်လိုကြပါသည်။ သို့ရာတွင် MNC တစ်ခုက မည်သည့်နေရာတွင်မဆို ဆိုင်ထူထောင်နိုင်သောအချိန်ဖြစ်သည့် Footloose capital (ကျရာပင်ပေါက်အရင်းအနှီး) ဟုခေါ်သောခေတ်တွင် ဤသို့ပြုလုပ်ခြင်းတွင် မလျော်ကန်သော သက်ရောက်မှုများ ရှိနိုင်ပါသည်။

MNC များ၏ ၎င်းတို့ထင်သလို သွားနိုင်လာနိုင်သော တန်ခိုးသြဇာသည် အစိုးရများကို စီးပွားရေးလုပ်ငန်းအတွက် ကောင်းသော်လည်း လူထုအတွက်မကောင်းသည့် မူဝါဒများကို အတင်းအကျပ် ချမှတ်စေပါသည်။ MNC များကို ဆွဲဆောင်ရန်အတွက် နိုင်ငံများအနေဖြင့် ယှဉ်ပြိုင်ကြရပါသည်။ ကုမ္ပဏီများအနေဖြင့် အမြတ်ရရှိရန်မျှော်လင့်နိုင်သည့် ပို၍လျှော့ချထားသောအခွန်များ၊ ပို၍လျှော့ချထားသောလုပ်ခများနှင့် ပို၍နည်းသော စည်းမျဉ်းစည်းကမ်းများကို ၎င်းတို့က ပေးကြပါသည်။

ဤသို့ အလုပ်သမားများနှင့် သဘာဝပတ်ဝန်းကျင်အပေါ်တွင် အကြီးအကျယ်ထိခိုက်စေသည့် သက်ရောက်မှုများရှိသော အပြိုင်အဆိုင်စည်းကမ်းလျှော့ချပေးခြင်းကို 'အောက်ဆုံးအထိအလျှော့ပြိုင်ခြင်း' (Race to the bottom) ဟု ခေါ်ပါသည်။ ကုန်ထုတ်လုပ်မှုသည် အနိမ့်ဆုံးလုပ်ခလစာနှင့် အလုပ်သမားအခွင့်အရေး အနည်းဆုံးရှိသောနေရာသို့ ရွှေ့ပြောင်းသွားသောအခါ လူမှုစီးပွားရေး တရစပ်ကျဆင်းမှုတစ်ခုကို ဖြစ်ပေါ်စေပါသည်။

'အောက်ဆုံးအထိ အလျှော့ပြိုင်ခြင်း' ၏ ကျေးဇူးကြောင့် အလုပ်အကိုင်ပေါင်းများစွာသည် အမေရိကန်နိုင်ငံမှ ရွှေ့ပြောင်းသွားခဲ့ပြီး ယခုဆိုလျှင် ထိုအလုပ်အကိုင်များသည် မက္ကဆီကိုနိုင်ငံမှ တရုတ်နိုင်ငံသို့ ရွှေ့ပြောင်းသွားနေပြီ ဖြစ်ပါသည်။

**'စစ်သုံးပစ္စည်းစက်မှုလုပ်ငန်းစု' ဆိုတာဘာလဲ**

စစ်သုံးပစ္စည်းစက်မှုလုပ်ငန်းစု (Military Industrial Complex) ဆိုသော စကားရပ်သည် ၁၉၆၁ ခုနှစ်က ၎င်းနှင့်ပတ်သက်၍ သတိပေးခဲ့သော သမ္မတအိုက်စင်ဟောင်ဝါ၏ နှုတ်ဆက်မိန့်ခွန်းမှလာခဲ့ပါသည်။ ၎င်းသည် မည်ကဲ့သို့လုပ်ဆောင်သနည်း။ လက်နက်ထုတ်လုပ်မှုလုပ်ငန်းသည် ပစ္စည်းများကိုဝယ်ယူ၍ သုတေသနလုပ်ငန်းကို ငွေကြေးထောက်ပံ့သောကြောင့် စီးပွားရေးတွင်ကြီးမားသော လုပ်ငန်းရှင်ဖြစ်သဖြင့် ၎င်းကို အစိုးရက ကူညီထောက်ပံ့ပါသည်။

ကုန်ပစ္စည်းများနှင့် ဝန်ဆောင်မှုများအတွက် ပေးသင့်ပေးထိုက်သည်ထက် များစွာပို၍ အစိုးရက မကြာခဏငွေပေးချေပါသည်။ ထိုသို့မဟုတ်ပါက အစိုးရအတွက် လိုအပ်ချင်မှလိုအပ်မည့်အရာများကို ဝယ်ယူပါသည်။ အရာရာတိုင်းသည် မတော်မတရား ဖြစ်လာနိုင်ပါသည်။ သမ္မတ Reagan ၏လက်ထက်တွင် ကုမ္ပဏီတစ်ခုက အမေရိကန်စစ်တပ်ကို ရေအိမ်ကြွေအိုးတစ်ခုလျှင် ဒေါ်လာ ၆၀၀ နှုန်း တောင်းခဲ့ပါသည်။

အကျင့်ပျက်ခြစားမှုများ များလွန်းလာလျှင် ဥပဒေပြုအမတ်များက ၎င်းကို မည်သည့်အတွက် ခွင့်ပြုထားသနည်း (သို့မဟုတ် အားပေးထောက်ခံခြင်းပင်ပြုနေသနည်း)။ အချို့မှာ ပုဂ္ဂလိကအကျိုးအမြတ်ရရှိကောင်းရရှိနေသောကြောင့်ဖြစ်နိုင်ပြီး အများစုမှာ ၎င်းတို့၏ ဒေသအတွက် အထောက်အကူပေးသောကြောင့် ဖြစ်ပါသည်။

စစ်လေယာဉ်တစ်စီးအတွက် ပြည်နယ်ပေါင်း ၄၄ ခုတွင် တစ်ဆင့်ခံ ကန်ထရိုက်လုပ်ငန်းရှင်များ ရှိပါသည်။ ၎င်းသည် လူပေါင်းများစွာ



အတွက် အလုပ်အကိုင်နှင့်ငွေများဖြစ်နေသောကြောင့် ထိုအလုပ်အကိုင်များပျောက်ကွယ်သွားမည်ကို မည်သူကမျှအလိုမရှိကြပါ။

အီရတ်နိုင်ငံကို အမေရိကန်က စစ်တိုက်ရခြင်း၏အကြောင်းရင်း တစ်စိတ်တစ်ပိုင်းသည် Military Industrial Complex ကြောင့်ဖြစ်သည်ဟု ဝေဖန်သူအချို့က ပြောကြပါသည်။ အဘယ့်ကြောင့်ဆိုသော် စစ်ပွဲက လစာများကိုပေး၍ အိတ်ကပ်များကို ဖောင်းစေသောကြောင့် ဖြစ်ပါသည်။

**ဒေါ်လာဟာ ဘာကြောင့်ကမ္ဘာသုံးငွေကြေးဖြစ်နေတာလဲ**

၁၉၄၆ ခုနှစ်မှစ၍ ဒေါ်လာသည် အလိုအလျောက် ကမ္ဘာသုံးငွေကြေး ဖြစ်လာခဲ့ပါသည်။ ဒေါ်လာ၏တန်ဖိုးကို 'ရွှေ' ဖြင့်သတ်မှတ်၍ အခြားသော ငွေကြေးအားလုံး၏ တန်ဖိုးကိုဒေါ်လာဖြင့် သတ်မှတ်ခဲ့ပါသည်။ ယခုအခါ ဒေါ်လာကို ရွှေဖြင့်သတ်မှတ်မထားသော်လည်း နိုင်ငံများစွာသည် ၎င်းတို့၏ ငွေကြေးများကို ဒေါ်လာဖြင့် သတ်မှတ်ထားကြပါသည်။ အချို့နိုင်ငံများက ၎င်းတို့၏ ကိုယ်ပိုင်ငွေနှင့်အတူ ဒေါ်လာကို သုံးစွဲကြပါသည်။

နိုင်ငံပေါင်းများစွာက ၎င်းတို့၏ အရန်နိုင်ငံခြားငွေထဲတွင် ဒေါ်လာကို ကိုင်ထားကြပါသည်။ ထို့ကြောင့် ရေနံနှင့် ရွှေကဲ့သို့အရာများတွင် အပြည်ပြည်ဆိုင်ရာကုန်သွယ်မှုပြုလုပ်ရန်အတွက် ၎င်းဒေါ်လာများကို အသုံးပြုနိုင်ပါသည်။ ကမ္ဘာ့ဈေးကွက်တွင် ရောင်းဝယ်နေသော ကုန်ပစ္စည်းများကို ဒေါ်လာဖြင့် မကြာခဏ ဈေးနှုန်းသတ်မှတ်ပါသည်။ ၂၀၀၈ ခုနှစ်က ငွေကြေးအပေးအယူပြုလုပ်မှုအားလုံး၏ ၆၈ ရာခိုင်နှုန်းကို ဒေါ်လာဖြင့် ပြုလုပ်ခဲ့ကြပါသည်။

ဤသို့ပြုလုပ်ခြင်းသည် အမေရိကန်နိုင်ငံကို အခြားနိုင်ငံများ၏ နိုင်ငံရေးနှင့် စီးပွားရေးလုပ်ငန်းစဉ်များအပေါ် ထိန်းချုပ်ခွင့်ပြုနေသည်ဟု ဝေဖန်သူများက ပြောကြပါသည်။ ၎င်းသည် နယ်ချဲ့ဝါဒပုံစံသစ်တစ်ခု သေချာပေါက် ဖြစ်နေပါသည်။

အချို့သော စီးပွားရေးပညာရှင်များက ဗဟိုဘဏ်တစ်ခုက စီမံကွပ်ကဲသော ကမ္ဘာ့ငွေကြေးတစ်ရပ်ကို အလိုရှိကြပါသည်။ ယူရိုသည် ပိုမိုတိုးတက် ကောင်းမွန်နေပါသည်။ ၂၀၀၈ ခုနှစ်တွင် အရောင်းအဝယ်အားလုံး၏ ၂၆. ၅ ရာခိုင်နှုန်းအတွက် ယူရိုကို အသုံးပြုခဲ့ပါသည်။

**အမေရိကန်နိုင်ငံမှာ ဘာကြောင့်အကြွေးတွေရှိနေတာလဲ**

အမေရိကန်နိုင်ငံသည် လွန်ခဲ့သော၂၅ နှစ်က ကမ္ဘာ့အကြီးမားဆုံး မြီရှင်နိုင်ငံ ဖြစ်ခဲ့ပါသည်။ သို့ရာတွင် ၁၉၈၀ ပြည့်လွန်နှစ်များ၏ နောက်ပိုင်းနှင့် ၁၉၉၀ ပြည့်လွန်နှစ်များတွင် မြီစားဖြစ်မည့် အလားအလာများ နိမိတ်ပြေးခဲ့ပါသည်။ အမေရိကန်နိုင်ငံတွင် ကြွေးမြီနှစ်မျိုး ရှိပါသည်။ ပထမတစ်မျိုးမှာ အစိုးရက အခွန်များကောက်ခံရရှိသည်ထက် ပို၍ သုံးစွဲသောကြောင့် အစိုးရသုံးစွဲမှုလိုငွေ ဖြစ်ပါသည်။

ဒုတိယတစ်မျိုးမှာ ပြည်ပပို့ကုန်ထက်သွင်းကုန်ကပိုများသဖြင့် ၎င်းတွင်ကုန်သွယ်မှုလိုငွေ ရှိပါသည်။ တစ်နည်းအားဖြင့် ၎င်းသည် ကမ္ဘာလုံးဆိုင်ရာကုန်သွယ်မှုတွင် ၎င်းရသည့်ငွေထက် ပို၍သုံးပါသည်။ သင်သည် ရသည့်ငွေထက် ပို၍သုံးစွဲလျှင် ချေးငွေကိုရယူရမည် ဖြစ်ပါသည်။ ထို့ကြောင့် အမေရိကန်နိုင်ငံသည် ပြည်တွင်းတွင် ငွေချေးစာချုပ်များကို ထုတ်ဝေပြီး ပြည်ပတွင်ကုန်သွယ်မှုလိုငွေကို စီမံနေရပါသည်။

ဥပမာအားဖြင့် အမေရိကန်နိုင်ငံအနေဖြင့် တရုတ်နိုင်ငံမှာ တီဗီအလုံး ၂,၀၀၀ ကိုဝယ်ယူလျှင် ၎င်းသည် တရုတ်နိုင်ငံထံတွင် ငွေအကြွေးတင်သွားပြီး တရုတ်နိုင်ငံက အမေရိကန်နိုင်ငံသို့ ငွေများ ချေးပါလိမ့်မည်။ ကုန်သွယ်မှုကြွေးမြီသည် အမေရိကန်နိုင်ငံ၏ သာမန်စာရင်းလိုငွေ၏ အစိတ်အပိုင်း ဖြစ်ပါသည်။ ၎င်းလိုငွေသည် ၂၀၀၈ ခုနှစ်တွင် ဒေါ်လာဘီလီယံ ၇၀၀ ကျော်ရှိသဖြင့် ကမ္ဘာပေါ်တွင် အများဆုံး ဖြစ်ပါသည် (GDP ၏ ၅ ရာခိုင်နှုန်းရှိပါသည်)။

(၈)

## အမီလိုက်ခြင်း

ဖွံ့ဖြိုးပြီးသောနိုင်ငံများကို အမီလိုက်ရန်အတွက် ပိုမိုဆင်းရဲသောနိုင်ငံများက မည်သို့လုပ်နိုင်သနည်း။ ဖြေရှင်းချက်များမှာ သွင်းကုန်ထိန်းချုပ်မှုစနစ်ဖြင့် ပြည်တွင်းလုပ်ငန်းများကို ကာကွယ်စောင့်ရှောက်ရန်ကြိုးစားခြင်းမှသည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုများကို တံခါးဖွင့်ပေးခြင်းအထိ အမျိုးမျိုးပါဝင်ပါသည်။ လူတိုင်းက စီးပွားရေးတိုးတက်ဖွံ့ဖြိုးမှုကို အလိုရှိကြသည်ဟု ထင်ရသော်လည်း ပေးဆပ်ရမည်က မည်သည့်အရာများနည်း။

**'ပို့ကုန်ဦးဆောင်သော ဖွံ့ဖြိုးတိုးတက်မှု' ဆိုတာဘာလဲ**

နိုင်ငံတစ်နိုင်ငံသည် ပို့ကုန်ဦးဆောင်သော ဖွံ့ဖြိုးရေးမဟာဗျူဟာ၏ နောက်သို့လိုက်လျှင် အပြည်ပြည်ဆိုင်ရာကုန်သွယ်မှုသည် ၎င်း၏ ဖွံ့ဖြိုးတိုးတက်ရေးအတွက် အဓိကအရင်းအမြစ်ဖြစ်သည်ဟု အဓိပ္ပာယ်ရပါသည်။ သို့ရာတွင် ဖွံ့ဖြိုးတိုးတက်ရန်ဖြစ်သော ဤနည်းလမ်းသည် လွယ်ကူရိုးစင်းသည့် လွတ်လပ်သောကုန်သွယ်ရေး မူဝါဒတစ်ခုထက် ယှဉ်ပြိုင်နိုင်စွမ်းရှိခြင်းကို သေချာစေရန် ခိုင်မာသောမူဝါဒပိုင်းဆိုင်ရာ အားပေးထောက်ခံမှုကို ပို၍လိုအပ်ပါသည်။

ဤမဟာဗျူဟာ၏ အအောင်မြင်ဆုံး ဥပမာများမှာ အရှေ့

အာရှကျားများဖြစ်ကြသည့် တောင်ကိုရီးယား၊ ထိုင်ဝမ်၊ စင်ကာပူနှင့် ဟောင်ကောင်တို့ ဖြစ်ကြပါသည်။ ၎င်းနိုင်ငံများသည် ကုန်ကျစရိတ်နည်းသော ထုတ်လုပ်ရေးလုပ်ငန်းများကို ဖန်တီးခဲ့ပြီး ထိုလုပ်ငန်းများက ကမ္ဘာ့စီးပွားရေးသို့ ယှဉ်ပြိုင်နိုင်စွမ်းရှိသော ပို့ကုန်များကိုရောင်းချ၍ အလျင်အမြန်ကြီးထွားလာခဲ့ပါသည်။

သို့ရာတွင် ထုတ်လုပ်ထားသော ပြည်ပပို့ကုန်များအပေါ်တွင် ဖောင်းပေးခြင်းသည် ခက်ခဲပါသည်။ ဖွံ့ဖြိုးဆဲနိုင်ငံများမှ ကုမ္ပဏီအသစ်များသည် ခိုင်မာတောင့်တင်းသော ကမ္ဘာလုံးဆိုင်ရာကုမ္ပဏီကြီးများနှင့် ယှဉ်ပြိုင်ရပါသည်။ ထို့ကြောင့် နိုင်ငံများစွာသည် ကုန်ကြမ်းပစ္စည်းတင်ပို့မှုအပေါ်တွင် မှီခိုအားထားရပြီး ၎င်းပစ္စည်းများ၏ ဈေးနှုန်းသည် မတည်ငြိမ်ဘဲ အလုပ်အကိုင်များကို များစွာပိုမိုနည်းပါးသွားစေပါသည်။

## 'ISI' ဆိုတာဘာလဲ

သွင်းကုန်အစားထိုးစက်မှုလုပ်ငန်းတည်ထောင်ခြင်း (Import-substitution Industrialization - ISI) သည် ဖွံ့ဖြိုးရေးအတွက် နည်းလမ်းတစ်ခုဖြစ်ပြီး ၎င်းနည်းလမ်းသည် သွင်းကုန်များကို တားဆီးပိတ်ဆို့ပြီး စက်မှုလုပ်ငန်းကို မြှင့်တင်ရန် ကြိုးစားပါသည်။ နောင်အခါတွင် မူဝါဒချမှတ်သူများက ဤလုပ်ငန်းကိုအားပေးခဲ့ပါသည်။ အထူးသဖြင့် လက်တင်အမေရိကစီးပွားရေးကြီးများဖြစ်ကြသော အာဂျင်တီးနား၊ ဘရာဇီးနှင့် မက္ကဆီကိုနိုင်ငံများတွင် ဖြစ်ပါသည်။

ဤနိုင်ငံများသည် ပြည်တွင်းဈေးကွက်အတွက် စက်မှုလုပ်ငန်း၏ ဖွံ့ဖြိုးတိုးတက်မှုကို လှုံ့ဆော်ပေးရန်အတွက် သွင်းကုန်အခွန်များ၊ ကူညီပံ့ပိုးငွေများ၊ နိုင်ငံတော်၏ ရင်းနှီးမြှုပ်နှံမှုနှင့် လုပ်ခလစာမူဝါဒများကို အသုံးပြုခဲ့ပါသည်။ အကြောင်းပြချက်များမှာ အချို့သောသွင်းကုန်များကို ပိတ်ဆို့ပြီး ထောက်ပံ့ငွေများပေးလိုက်ခြင်းအားဖြင့် နိုင်ငံခြားကုမ္ပဏီများကို ထိခိုက်စေလျှက် ပြည်တွင်းစက်မှုလုပ်ငန်းများ ကြီးထွားလာလိမ့်မည်ဟူ၍ ဖြစ်ပါသည်။



တိုးတက်နေသည့် ဝယ်လိုအားအတွက် နိုင်ငံတော်၏ ရင်းနှီးမြှုပ်နှံမှုနှင့် လုပ်ခလစာတိုးမှုများကိုစီစဉ်ပေးပြီး ၎င်းတို့က ထုတ်လုပ်မှုကို ထပ်မံလှုံ့ဆော်ပေးနိုင်ပါသည်။ ကနဦးအောင်မြင်မှုများရှိသော်လည်း စီးပွားရေးကြာရှည်တန့်နေခြင်းနှင့် ငွေကြေးဖောင်းပွမှုက ဤနည်း လမ်းကိုအားနည်းစေခဲ့သဖြင့် ၁၉၇၀ ပြည့်လွန်နှစ်များနှင့် ၁၉၈၀ ပြည့်လွန်နှစ်များတွင် ISI ပြိုလဲခဲ့ပါသည်။

**'ပတ်ဝန်းကျင်ကိုမထိခိုက်သောဖွံ့ဖြိုးမှု' ဆိုတာဘာလဲ**

ပတ်ဝန်းကျင်ကိုမထိခိုက်သော ဖွံ့ဖြိုးမှုနှင့်ပတ်သက်သည့် အခြေအတင်ဆွေးနွေးမှုသည် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် လိုအပ်ချက်သက်သက်ကို ကျော်လွန်၍ကြည့်ပါသည်။ ၎င်းသည် ကျွန်ုပ်တို့၏ ဘဝနေထိုင်မှုတစ်ခုလုံးအတွက် မေးခွန်းများကို ပေါ်ပေါက်စေပါသည်။ စီးပွားရေးနှင့် လူမှုရေးပြဿနာများသည် ပတ်ဝန်းကျင်နှင့် အများဆုံး ဆက်စပ်နေသော်လည်း ၎င်းတို့သည် ပတ်ဝန်းကျင်ကို မထိခိုက်သော ဖွံ့ဖြိုးမှုအတွက်လည်း အလွန်အရေးပါပါသည်။

ကုလသမဂ္ဂပတ်ဝန်းကျင်ကို မထိခိုက်သောဖွံ့ဖြိုးမှုဌာနခွဲသည် အဆင့်အားလုံးရှိ ၎င်း၏ စီးပွားရေး၊ ပတ်ဝန်းကျင်နှင့် လူမှုရေးအစိတ်အပိုင်းများကို မြှင့်တင်ပေးပါသည်။ ပတ်ဝန်းကျင်ကို မထိခိုက်ရန်အတွက် ဖွံ့ဖြိုးရေးသည် သာတူညီမျှဖြစ်ရမည့်အပြင် လူတစ်ဦးချင်းနှင့် လူ့အသိုက်အဝန်းများ၏ လူမှုရေးနှင့် ယဉ်ကျေးမှုအခွင့်အရေးများကိုလည်း ကာကွယ်စောင့်ရှောက်ရမည် ဖြစ်ပါသည်။ စက်ရုံတစ်ခုကို တည်ဆောက်ခြင်းသည် GDP ကို ကြီးထွားစေနိုင်သော်လည်း ၎င်းစက်ရုံသည် လုံခြုံမှုမရှိသော လုပ်ငန်းခွင်အခြေအနေများနှင့် နိမ့်ကျသောလုပ်ခများကို ပေးလျှင် ၎င်းသည် ပတ်ဝန်းကျင်ကို မထိခိုက်သော ဖွံ့ဖြိုးမှုမဟုတ်ပါ။

**'ဒေသဆိုင်ရာကုန်သွယ်ရေးအုပ်စု' ဆိုတာဘာလဲ**

သုံးခု၊ သို့မဟုတ် သုံးခုထက်ပိုသော အစိုးရများက ပြင်ပအစိုးရ

များထက် ပိုမိုလွယ်ကူစွာ ၎င်းတို့၏အိမ်နီးချင်းများနှင့် ကုန်သွယ်မှုပြုလုပ်လိုကြလျှင် ၎င်းတို့အနေဖြင့် ဒေသဆိုင်ရာကုန်သွယ်ရေးအုပ်စုများ (Regional Trading Blocs) ကို ဖွဲ့စည်းနိုင်ပါသည်။ 'အုပ်စု' တစ်ခုကို ဖွဲ့စည်းတည်ထောင်ရန်အတွက် ၎င်းတို့အနေဖြင့် ၎င်းတို့အချင်းချင်းကြားရှိ ကုန်သွယ်ရေးအတားအဆီးများကို လျှော့ချရန် သဘောတူကြပါလိမ့်မည်။ သို့ရာတွင် အဖွဲ့ဝင်မဟုတ်သော နိုင်ငံများအပေါ် တွင်မူ အများနည်းတူ ပြင်ပအကောက်ခွန်ကို ဆက်လက်ထိန်းသိမ်းထားပါလိမ့်မည်။

လူသိအများဆုံးဥပမာတစ်ခုမှာ ဥရောပသမဂ္ဂ ဖြစ်ပါသည်။ သို့ရာတွင် ၎င်းအုပ်စုများသည် အခြားဒေသများတွင်လည်း ပို၍ပို၍ပျံ့နှံ့နေပါသည်။ လက်တင်အမေရိကမှ Mercosur ၊ အနောက် အာဖရိကမှ ECOWAS နှင့် အာရှမှ ASEAN တို့သည် ဒေသဆိုင်ရာ ကုန်သွယ်ရေးအုပ်စုများ၏ အောင်မြင်သောဥပမာသုံးခု ဖြစ်ပါသည်။

သို့ရာတွင် ဤအုပ်စုများသည် ဖွံ့ဖြိုးရေးနှင့် ပတ်သက်၍ ဘာတွေလုပ်ရမည်နည်း။ လွယ်ပါသည်။ ပိုမိုကြီးမားသောဈေးကွက်များနှင့် စီးပွားရေးများအကြောင်းကိုစဉ်းစားပါ။ ကြီးမားသောဈေးကွက်များသည် ကုန်ပစ္စည်းထုတ်လုပ်မှုကို လှုံ့ဆော်ပေးပြီး သံမဏိ၊ သို့မဟုတ် ဓာတုဗေဒပစ္စည်းကဲ့သို့ ခေတ်မီသော စက်မှုလုပ်ငန်းများကို အားပေးပါသည်။ ၎င်းလုပ်ငန်းများသည် သေးငယ်သော စီးပွားရေးထဲတွင် ရှင်သန်နိုင်မည်မဟုတ်ပါ။

## 'ဒေသဆိုင်ရာဖွံ့ဖြိုးရေးဘဏ်' ဆိုတာဘာလဲ

ဖွံ့ဖြိုးဆဲနိုင်ငံများသည် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုမရှိခြင်းကို မကြာခဏ ခံစားကြရပါသည်။ ဒေသဆိုင်ရာဖွံ့ဖြိုးရေးဘဏ် (Regional Development Bank) များသည် ၎င်းလိုငွေကိုကိုင်တွယ်ဖြေရှင်းရန် ကြိုးစားပါသည်။ အရေးကြီးသောဥပမာများထဲတွင် အာဖရိကဖွံ့ဖြိုးရေးဘဏ်၊ အာရှဖွံ့ဖြိုးရေးဘဏ်နှင့် အမေရိကနိုင်ငံများဖွံ့ဖြိုးရေးဘဏ်များ



ပါဝင်ပါသည်။ ဤအဖွဲ့အစည်းများသည် ဖွံ့ဖြိုးဆဲနိုင်ငံများမှ စက်မှုလုပ်ငန်းစီမံကိန်းများအတွက် အလတ်စားနှင့် ရေရှည်ချေးငွေများကို ပေးပါသည်။ ၎င်းတို့သည် လုပ်ငန်းများကိုလည်း စွန့်ဦးတီထွင်မှုဆိုင်ရာ၊ စီမံခန့်ခွဲမှုဆိုင်ရာ၊ ကြော်ငြာဆိုင်ရာအကူအညီများ ပေးပါသည်။

မူလက ကမ္ဘာ့ဘဏ်ကဲ့သို့ နိုင်ငံစုံပါဝင်သော အေဂျင်စီများ၊ USAID ကဲ့သို့ ပြည်ပဖွံ့ဖြိုးရေးအေဂျင်စီများနှင့် အမျိုးသားအစိုးရများက ရန်ပုံငွေများကို ပေးအပ်ပါသည်။ ၁၉၉၀ ပြည့်လွန်နှစ်များတစ်လျှောက်လုံး ဒေသဆိုင်ရာဖွံ့ဖြိုးရေးဘဏ်များ လျင်မြန်စွာတိုးတက်လာသည့်အတွက် အစုရှယ်ယာပမာဏများကို ပြည်တွင်းပြည်ပမှ ရင်းနှီးမြှုပ်နှံသူများက ကြီးစိုးလာခဲ့ပါသည်။ အကြီးစားငွေထုတ်ချေးခြင်းအပေါ်တွင် ဇောင်းပေးခြင်းသည် အသေးစားငွေချေးယူသူများလွှမ်းမိုးနေသော ဖွံ့ဖြိုးဆဲနိုင်ငံများအတွက် သင့်တော်မှုမရှိသည့်အတွက်ပြစ်တင် ဝေဖန်ခြင်းခံခဲ့ရပါသည်။

## 'ကြွေးမြီသက်သာခွင့်' ဆိုတာဘာလဲ

တာဝန်ယူမှုမရှိသော ငွေထုတ်ချေးခြင်းနှင့် ငွေချေးယူခြင်းသည် ဖွံ့ဖြိုးဆဲနိုင်ငံများစွာအတွက် ထိန်းမနိုင်သိမ်းမရသော ကြွေးမြီအဆင့်များကို ဖြစ်ပေါ်စေခဲ့ပါသည်။ ကြွေးမြီသက်သာခွင့် (Debt releif) သည် ပြည်ပဘဏ်များနှင့် ငွေချေးသော အဖွဲ့အစည်းများထံတွင် တင်ရှိနေသော ကြွေးမြီများ၏ တစ်စိတ်တစ်ပိုင်းကိုဖြစ်စေ၊ အားလုံးကိုဖြစ်စေ ခွင့်လွှတ်ပေးခြင်းကို ဖြစ်ပေါ်စေပါသည်။

IMF နှင့် World Bank တို့၏ HIPC (Highly Indebted Poor Countries) (ကမ္ဘာ့ဘဏ် အလွန်အကျွံကြွေးတင်နေသော ဆင်းရဲသောနိုင်ငံများ) ပူးတွဲအစီအစဉ်ကဲ့သို့သော အစီအစဉ်သစ်အချို့သည် ကြွေးမြီသက်သာခွင့်အချို့ကို ထုတ်ပေးခဲ့ပါသည်။ နိုင်ငံများစွာအနေဖြင့် အတိုးဆပ်ငွေများက အမျိုးသားအစိုးရတစ်ရပ်၏ အလားအလာရှိသော ဝင်ငွေထက် ကျော်လွန်သွားသဖြင့် ကြွေးမြီကို 'ပေးဆပ်နိုင်ခြင်းမရှိ' ဟု

ဖော်ပြနိုင်ပါသည်။ ကြွေးမြီကိုမပေးဆပ်နိုင်ခြင်းမဟုတ်သည့်တိုင် နိုင်ငံများအနေဖြင့် ဆင်းရဲမှုလျှော့ချရေးအတွက် သုံးစွဲနိုင်သော အစိုးရဝင်ငွေအမြောက်အမြားကို ကြွေးမြီပေးဆပ်ရန် အသုံးပြုရပါသည်။

ဤသို့ဆောင်ရွက်ခြင်းသည် အလွန်အရေးကြီးသည်ဟု ကြွေးမြီသက်သာခွင့်ကိုထောက်ခံသောသူများက ပြောကြပါသည်။ အရင်းအမြစ်များကို ပြည်တွင်းစီးပွားရေးသို့ ပြောင်းရွှေ့ပေးခြင်းသည် အစိုးရများအနေဖြင့် ပြည်သူများ၏လိုအပ်ချက်ကို ပိုမိုကောင်းစွာဆောင်ရွက်ပေးသည်ဟု အဓိပ္ပာယ်ရပါသည်။ သို့ရာတွင် ကြွေးမြီသက်သာခွင့်သည် တာဝန်ယူခြင်း ပို၍ကင်းမဲ့သော ချေးယူမှုများကိုအားပေးလိမ့်မည်ဟု စီးပွားရေးပညာရှင်နှင့် နိုင်ငံရေးသမားအချို့က စောဒကတက်နေသဖြင့် အငြင်းပွားဖွယ် ဖြစ်နေပါသေးသည်။

**'Gini မြှောက်ဖော်ကိန်း' ဆိုတာဘာလဲ**

နိုင်ငံများအတွင်းရှိ မညီမျှမှုကို ကျွန်ုပ်တို့ မည်သို့တိုင်းတာနိုင်သည်ကို သိချင်ခဲ့ဖူးပါသလား။ ဤရည်ရွယ်ချက်အတွက် Gini မြှောက်ဖော်ကိန်းကို ဖော်ထုတ်ခဲ့ပါသည်။ ၎င်းသည် မညီမျှမှုကို သင်္ချာနည်းဖြင့် သုညမှတစ်အထိတိုင်းတာသော ကိုယ်စားပြုမှုတစ်ခုဖြစ်ပါသည်။ သုညသည် အကြွင်းမဲ့ညီမျှမှုဖြစ်ပြီး တစ်သည်အကြွင်းမဲ့မညီမျှမှု ဖြစ်ပါသည်။ ဤစံသတ်မှတ်ထားသောတန်ဖိုးကို ပညာရေးမှ မြေပိုင်ဆိုင်မှုအထိ လုပ်ကိုင်ပုံနည်းလမ်းများအားလုံး၏ မညီမျှမှုကို တိုင်းတာရန် အသုံးပြုပါသည်။

၎င်းကို ဝင်ငွေအတွက် အများဆုံးအသုံးပြုပါသည်။ ဤစစ်မှန်သောအတိုင်းအတာသည် အညီမျှဆုံးနိုင်ငံများတွင် ၀.၂ ဝန်းကျင်တွင်ရှိပြီး ညီမျှမှုမရှိဆုံးနိုင်ငံများတွင် ၀.၇ ဝန်းကျင်၌ ရှိပါသည်။ မညီမျှမှု အတိုင်းအတာများသည် ဖွံ့ဖြိုးရေးအတွက် အရေးကြီးပါသည်။ ၎င်းတို့သည် ယေဘုယျ GDP အဆင့်များထက်ပိုသော အသေးစိတ်များကိုပေးပါသည်။

မညီမျှမှု၏ မြင့်မားသောအဆင့်များသည် ထိခိုက်နစ်နာမှု ရှိနိုင်ပါသည်။ ၎င်းတို့သည် ပြစ်မှုများမြင့်တက်မှုကို ဖြစ်ပေါ်စေနိုင်ပြီး လူ့အသိုက်အဝန်းများထဲတွင် ဆင်းရဲမွဲတေမှုကို မျိုးဆက်များနှင့်ချီ၍ ဆက်လက်ဖြစ်ပေါ်သွားစေနိုင်ပါသည်။

**'ဝယ်နိုင်အားညီမျှမှု' ဆိုတာဘာလဲ**

GDP တိုင်းတာမှုများကို အမြဲလိုလို အမေရိကန်ဒေါ်လာဖြင့် တင်ပြကြသော်လည်း နိုင်ငံတစ်နိုင်ငံရှိ တစ်ဒေါ်လာသည် အခြားနိုင်ငံတစ်နိုင်ငံရှိ တစ်ဒေါ်လာထက် များစွာပို၍ဝယ်ယူနိုင်ပါသည်။ ဝယ်နိုင်အားညီမျှမှု (Purchasing Power Parity - PPP) သည် GDP ကို အမေရိကန်ဒေါ်လာဖြင့် ကိုယ်စားပြုသောအခါ ဤအချက်ကို ထည့်သွင်း စဉ်းစားသော တွက်ချက်မှုတစ်ခု ဖြစ်ပါသည်။

မတူညီသောငွေကြေးတစ်ခုဖြင့် ဖော်ပြထားသော GDP တစ်ခုကို ကိုယ်စားပြုရန် ရိုးရိုးငွေကြေးလဲလှယ်မှု ပေါက်ဈေးနှုန်းများကို အသုံးပြုခြင်းထက် PPP က စံသတ်မှတ်ထားသော အတိုင်းအတာတစ်ခုကို ထုတ် လုပ်ပေးပါသည်။

စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို နားလည်ရန်အတွက် အလွန်အရေးပါသော ပိုမိုတိကျသော ကိန်းဂဏန်းတစ်ခုကို ထုတ်လုပ်ရန်အတွက် ငွေကြေးဖောင်းပွမှုနှင့် နှိုင်းယှဉ်နေထိုင်စားသောက် ကုန်ကျစရိတ်များကို ထည့်သွင်းထားပါသည်။

လူကြိုက်များသော နမူနာတစ်ခုမှာ *The Fconomist* မဂ္ဂဇင်းကြီး၏ 'Big MacIndex' ဖြစ်ပါသည်။ ၎င်းညွှန်းကိန်းသည် ရှင်းလင်းလွယ်ကူအောင် ပြုလုပ်ထားသော PPP တစ်ခုကို တွက်ချက်ရန် လူကြိုက်များသော အသားညှပ်မုန့်၏ဈေးနှုန်းကို အသုံးပြုထားပါသည်။

နိုင်ငံအများတွင် စံသတ်မှတ်ထားသော ဤပစ္စည်း၏ဈေးနှုန်းကို နှိုင်းယှဉ်ခြင်းသည် နှိုင်းယှဉ်နေထိုင်စားသောက်မှုကုန်ကျစရိတ်အတွက် ကိုယ်စားပြုမှုတစ်ခုကို ပေးပါသည်။

**'အသေးစားငွေချေးလုပ်ငန်း' ဆိုတာဘာလဲ**

ဖွံ့ဖြိုးဆဲနိုင်ငံများစွာတွင် အသေးစားစီးပွားရေးလုပ်ငန်းများက လွှမ်းမိုးနေပါသည်။ ကူးသန်းရောင်းဝယ်ရေးဘဏ်များသည် ၎င်းတို့ကို ငွေချေးရန်ခဲယဉ်းပါသည်။ ထို့ကြောင့် ဤဟာကွက်ကို အသေးစား ချေးငွေလုပ်ငန်း (Microfinance) က ဖြည့်စွက်ပေးပါသည်။

အသေးစားချေးငွေလုပ်ငန်းအဖွဲ့အစည်းများသည် ဆင်းရဲသော သူများကို တိုက်ရိုက်ပစ်မှတ်ထား၍ ၎င်းတို့ကို အပေါင်ပစ္စည်းမပါဘဲ အသေးစားချေးငွေများ ပေးပါသည် (များသောအားဖြင့် ဒေါ်လာ ၅၀၀ ထက်နည်းပါသည်)။ လမ်းဘေးဈေးသည်များ၊ လွတ်လပ်သော ရောင်း ဝယ်သူများနှင့် လယ်သမားကလေးများအားလုံးသည် အဓိကအားဖြင့် သမဝါယမအသင်းများဖြစ်ကြသော ဤအဖွဲ့အစည်းများထံမှ အကျိုး ခံစားကြရပါသည်။

အဖွဲ့လိုက်ငွေချေးပေးသော ဤအစီအစဉ်သည် အဖွဲ့တစ်ဖွဲ့ကို ကြီးမားသောချေးငွေတစ်ခုကို ထုတ်ခွင့်ပြု၍ ရန်ပုံငွေများကို အဖွဲ့ဝင် တစ်ဦးချင်းသို့ ခွဲဝေခွင့်ပြုပြီး ၎င်းတစ်ဦးချင်းက အဖွဲ့ကို ပြန်လည် ပေးဆပ်ရပါသည်။ ငွေစုငွေချေးအသင်းများသည် အတိုးမဲ့ချေးငွေများကို ပေးပါသည်။ သတ်မှတ်ထားသော စုဆောင်းငွေပမာဏကို အဖွဲ့ဝင် တစ်ဦးချင်းထံမှကောက်ခံ၍ ချေးငွေအဖြစ် ပြန်လည်ဖြန့်ဝေပေးပါသည်။

အသေးစားငွေချေးလုပ်ငန်း၏ အထင်ရှားဆုံးသာဓကတစ်ခုမှာ Grameen ဘဏ် ဖြစ်ပါသည်။ မူလက ဘင်္ဂလားဒေ့ရှ်နိုင်ငံတွင် တည် ထောင်ခဲ့သော ၎င်းဘဏ်သည် ကမ္ဘာကျော်အဖွဲ့အစည်းတစ်ခု ဖြစ်လာ ခဲ့ပါသည်။

လုပ်ငန်းအတွက် လေ့ကျင့်သင်ကြားပေးထားသော အဖွဲ့ဝင် များပါဝင်သည့်အဖွဲ့များသို့ အပေါင်ပစ္စည်းမပါသော ချေးငွေများကို ဖြန့်ဝေပါသည်။ လေ့ကျင့်သင်ကြားပေးခြင်းနှင့်ညီမျှသော ဖိအားကို ပေး၍ ချေးငွေပြန်လည်ပေးဆပ်မှုနှုန်းများ အလွန်မြင့်မားသည်ကို သေချာအောင်လုပ်ပါသည်။

**'နိုင်ငံခြားတိုက်ရိုက်ရင်းနှီးမြှုပ်နှံမှု' ဆိုတာဘာလဲ**

နိုင်ငံခြားတိုက်ရိုက်ရင်းနှီးမြှုပ်နှံမှု (Foreign Direct Investment - FDI) သည် နိုင်ငံခြားစီးပွားရေးတစ်ခုထဲမှ လူပုဂ္ဂိုလ်တစ်ဦး၊ သို့မဟုတ် စီးပွားရေးလုပ်ငန်းတစ်ခု၏ ကာလလတ်၊ သို့မဟုတ် ကာလရှည် ရင်းနှီးမြှုပ်နှံမှုတစ်ခု ဖြစ်ပါသည်။ ဤသို့ပြုလုပ်ရာတွင် နိုင်ငံစုံကော်ပိုရေးရှင်းကြီးများက အခြားစီးပွားရေးလုပ်ငန်းများ၊ သို့မဟုတ် လက်အောက်ခံကုမ္ပဏီများကို ဝယ်ယူသိမ်းပိုက်သည့်၊ သို့မဟုတ် တရားဝင်ပေါင်းစည်းသည့်ပုံစံကို အများဆုံး ယူထားပါသည်။

FDI သည် ဖွံ့ဖြိုးတိုးတက်မှုအတွက် သော့ချက်ဖြစ်သည်ဟု ထောက်ခံသူများက ဆိုကြပါသည်။ ၎င်းသည် ပြည်တွင်း မတည်ရင်းနှီးငွေမရှိခြင်းကို ကိုင်တွယ်ဖြေရှင်းပြီး ခေတ်အမီဆုံးနည်းပညာနှင့် ကျွမ်းကျင်မှုများကို ယူဆောင်လာပါသည်။ မည်သို့ပင်ဖြစ်စေ ဒေသဆိုင်ရာ အစိုးရများကလည်း ဖန်တီးလိုက်သည့် မြင့်မားသောအကျိုးအမြတ်များနှင့် လုပ်ခလစာနှစ်မျိုးစလုံးအပေါ်တွင် စည်းကြပ်ရသောအခွန်များကြောင့် တိုးတက်လာသောဝင်ငွေကို အကျိုးခံစားရပါသည်။

သို့ရာတွင် အစိုးရများသည် FDI ကို ဆွဲဆောင်ရန်အတွက် မက်လုံးများကို ပေးရပါသည်။ အစိုးရထောက်ပံ့ငွေများနှင့် အခွန်လျှော့ချပေးမှုများအားလုံးသည် အလားအလာရှိသောငွေကို လျှော့နည်းစေပါသည်။ FDI သည် ပြည်တွင်းကုမ္ပဏီများကို ဈေးကွက်ထဲမှမောင်းထုတ်သဖြင့် ပြည်တွင်းစွန့်ဦးတီထွင်လုပ်ငန်းကိုလည်း အကျဉ်းအကျပ် ဖြစ်စေနိုင်ပါသည်။ ကော်ပိုရေးရှင်းများသည် အမြတ်၏နောက်သို့ လိုက်ပါသည်။ ဖွံ့ဖြိုးရေးနောက်သို့ မလိုက်ပါ။

**'Hot Money' ဆိုတာဘာလဲ**

ဖွံ့ဖြိုးဆဲနိုင်ငံများတွင် ကာလတိုရင်းနှီးမြှုပ်နှံမှုများကို Hot Money အဖြစ် မကြာခဏ ရည်ညွှန်းပြောဆိုကြပါသည်။ ၎င်းတို့သည် မိနစ်ပိုင်းအတွင်းဝင်လာပြီး ပြန်ထွက်သွားနိုင်ပါသည်။

ဈေးအတက်အကျဖြစ်မှုအနည်းငယ်မှ အမြတ်ရရန် ငွေကို အမြန်လှည့်ပတ်နေသော ပြည်ပမှစွန့်စားရောင်းဝယ်သူများသည် Hot Money များကို ပြည်တွင်းစတော့ဈေးကွက်၊ သို့မဟုတ် ငွေကြေးဈေးကွက်ထဲတွင် ထည့်ထားကြပါသည်။ ဤဘဏ္ဍာငွေစီးဆင်းမှုများသည် အလွန်ပြောင်းလဲလွယ်သည့်အတွက် ဖွံ့ဖြိုးရေးတွင် ၎င်းတို့၏ အထောက်အကူပြုမှုသည် များစွာပင်အငြင်းပွားဖွယ် ဖြစ်နေပါသည်။

တစ်ဘက်တွင်လည်း လက်ခံရရှိသောနိုင်ငံများသည် ဒေသတွင်းစီးပွားရေးလုပ်ငန်းများအတွက် အရင်းအနှီးရရှိနိုင်မှု တိုးတက်လာခြင်းမှ အကျိုးခံစားရနိုင်ပါသည်။ အခြားတစ်ဘက်တွင် ထိုကဲ့သို့စီးဆင်းမှုများ၏ပြောင်းလဲလွယ်မှုသည် စီးပွားရေးတစ်ခုကိုမတည်မငြိမ်ဖြစ်စေနိုင်ပြီး ရေရှည်ရင်းနှီးမြှုပ်နှံမှုအတွက် လုံလောက်သောအစားထိုးမှု တစ်ခု မည်သည့်အခါမှ ဖြစ်လာမည်မဟုတ်ပါ။ ၁၉၉၀ ပြည့်လွန်နှစ် များ၏အလယ်ပိုင်းတွင် ပြည်ပရင်းနှီးမြှုပ်နှံသူများက ၎င်းတို့၏ Hot Money များကို ပြန်ထုတ်သွားသောအခါ အခြားနိုင်ငံများစွာနှင့်အတူ မက္ကဆီကိုနှင့် ထိုင်းနိုင်ငံသည် ကြီးမားသော အကျပ်အတည်းများကို ခံစားခဲ့ရပါသည်။

## အပြည်ပြည်ဆိုင်ရာအကူအညီဟာ ဘယ်လိုအသုံးဝင်သလဲ

အပြည်ပြည်ဆိုင်ရာအကူအညီသည် ချမ်းသာသောနိုင်ငံများမှ ဆင်းရဲသောနိုင်ငံများသို့ အရင်းအမြစ်များ လွှဲပြောင်းပေးခြင်းဖြစ်သည်။ ၎င်းသည် ကူးသန်းရောင်းဝယ်ရေးမဟုတ်သော၊ လျှော့ပေါ့လိုက်လျောပေးသောအကူအညီကို ရည်ညွှန်းပါသည်။ များသောအားဖြင့် ၎င်းသည် 'တရားဝင်ဖွံ့ဖြိုးရေးအကူအညီ' ပုံစံ ဖြစ်ပါသည်။ ၎င်းသည် USAID ကဲ့သို့သောအေဂျင်စီများမှတစ်ဆင့် အစိုးရများထံမှ တိုက်ရိုက်လာပါသည်။

ဤအကူအညီသည် ဆင်းရဲမှုကိုလျှော့ချရေးအတွက် ကူညီရန်နှင့် ပညာရေးနှင့်ကျန်းမာရေးစောင့်ရှောက်မှုကဲ့သို့သောကဏ္ဍများ

အတွက် ဘတ်ဂျက်အထောက်အပံ့ပေးရန် ရည်ရွယ်ပါသည်။ ထိုနေရာတွင် ဘီလီယံနှင့်ချီ၍ သုံးစွဲခဲ့သော်လည်း ရလဒ်ကောင်းများထပ်ပေါ်မလာသေးကြောင်း ဝေဖန်သူများက ထောက်ပြကြပါသည်။ ၎င်းအကူအညီသည် နိုင်ငံများကို ပို၍ဆင်းရဲစေပြီး အကျင့်ပျက်မှုကိုသာမွေးမြူပေးခဲ့ပါသည်။

အစိုးရများသည် ပြည်ပပို့ကုန်များကို အားပေးခြင်း၊ အခွန်ကောက်ခံရငွေများကို တိုးအောင်လုပ်ခြင်းများလုပ်ရမည့်အစား ဤဝင်ငွေအပေါ်တွင်အားကိုး၍ သူတစ်ပါးအပေါ်တွင် မှီခိုအားထားလာကြသည်ဟု အခိုင်အမာဆိုကြပါသည်။ သို့ရာတွင် အထူးသဖြင့် တာဝန်ယူမှုနှင့်ပတ်သက်၍ ပြဿနာများရှိသော်ငြားလည်း အပြည်ပြည်ဆိုင်ရာ အကူအညီကို လုံးဝဖျက်သိမ်းပစ်ရန်မှာမူ ခက်ခဲမည် ဖြစ်ပါသည်။

ဖွံ့ဖြိုးရေးသည် ဈေးကွက်တစ်ခုတည်းက ဖြည့်ဆည်းမပေးနိုင်သော အရင်းအမြစ်များကိုလိုအပ်ပြီး အကူအညီသည် ၎င်းအရင်းအမြစ်များကို လိုအပ်သောသူများထံသို့ ရောက်ရှိရန် အစိုးရများကို နည်းလမ်းတစ်ခုပေးပါသည်။

**'အသိဉာဏ်ပစ္စည်းဆိုင်ရာအခွင့်အရေးများ' ဆိုတာဘာတွေလဲ**

အသိဉာဏ်ပစ္စည်း (Intellectual property) သည် ကုန်ပစ္စည်းတစ်ခုတွင်ပါဝင်သည့် စိတ်ကူးများ၊ ဒီဇိုင်းပုံစံများနှင့် တီထွင်မှုများကို ရည်ညွှန်းပါသည်။ ၎င်းတို့ကို ကာကွယ်စောင့်ရှောက်ရန်အတွက် အခွင့်အရေးများနှင့် ပတ်သက်သောစနစ်တစ်ခုကို ပုံစံချထားပါသည်။ Copyright (မူပိုင်ခွင့်) များနှင့် Patent (မှတ်ပုံတင်ထားသောမူပိုင်) များသည် အသိဉာဏ်ပစ္စည်းများကို အတိအကျ သတ်မှတ်ပြဋ္ဌာန်းထားသော အသုံး အများဆုံးသောနည်းလမ်းနှစ်ခု ဖြစ်ပါသည်။

အသိဉာဏ်ပစ္စည်းဆိုင်ရာ အခွင့်အရေးများသည် ဆန်းသစ်တီထွင်မှုအတွက် မက်လုံးပေးနေသောကြောင့် ဆင်းရဲသောနိုင်ငံများ ရှင်သန်ကြီးထွားရန် ၎င်းတို့သည် အလွန်အရေးကြီးသည်ဟု အသိဉာဏ်

ပစ္စည်းဆိုင်ရာအခွင့်အရေးများကို ထောက်ခံသောသူများက အခိုင်အမာ ပြောကြပါသည်။

သို့ရာတွင် ၎င်းတို့သည် အဓိကအားဖြင့် ကြီးမားသော ကော်ပိုရေးရှင်းကြီးများအတွက် အကျိုးရှိနေပြီး အမှန်တကယ်တွင် ဆင်းရဲသော နိုင်ငံများနှင့် ၎င်းတို့၏ ပြည်သူများအတွက် အန္တရာယ်ရှိနိုင်ပါသည်။ သာဓကတစ်ခုမှာ HIV/AIDS ဖြစ်ပါသည်။ အသိဉာဏ်ပစ္စည်းဆိုင်ရာ အခွင့်အရေးများသည် ဆင်းရဲသောနိုင်ငံများသို့ ပို၍စျေးသက်သာသော ဆေးဝါးများရောင်းချခြင်းကို ကြာရှည်စွာကန့်သတ်ထားခဲ့ပါသည်။

## တရုတ်နိုင်ငံဟာ ဘာကြောင့်ဒီလောက်အောင်မြင်နေတာလဲ

တရုတ်နိုင်ငံ၏ စီးပွားရေးလျှင်မြန်သောတိုးတက်မှုနှင့် စက်မှုလုပ်ငန်းတည်ထောင်မှုသည် အထင်ကြီးလေးစားစရာအကောင်းဆုံး တိုးတက်ဖွံ့ဖြိုးရေး အောင်မြင်မှုဖြစ်ရပ်တစ်ခု ဖြစ်ပါသည်။ လျှင်မြန်သောတိုးတက်မှုနှင့် တိုးပွားလာသောစက်မှုလုပ်ငန်းသည် အထူးသဖြင့် နိုင်ငံတောင်ပိုင်းတွင်ဖြစ်ခဲ့ပြီး ဆင်းရဲမှုကို အကြီးအကျယ် လျော့နည်းသွားစေခဲ့ပါသည်။

ကမ္ဘာ့ဘဏ်၏ ခန့်မှန်းချက်များအရ ၁၉၈၇ ခုနှစ်မှ ၁၉၉၈ ခုနှစ်အထိ ဆယ့်တစ်နှစ်ကာလအတွင်း စားဝတ်နေရေးအတွက် အနည်းဆုံးလိုအပ်ချက်ကို ပြည့်ဝအောင်မရရှိသူဦးရေသည် သန်းပေါင်း ၁၀၀ နီးပါး လျော့နည်းသွားခဲ့ပါသည်။ ဤအောင်မြင်မှုသည် ဖြေလျှော့ပေးခဲ့မှုများကြောင့်ဖြစ်သည်ဟု အချို့ကဆိုကြပြီး အချို့ကမူ အစိုးရ၏ အခန်းကဏ္ဍကို ထောက်ပြကြပါသည်။ အခြားတစ်ဘက်တွင် ဖြေလျှော့ပေးမှုများ ပိုမိုပြုလုပ်ရေးဆွေးနွေးမှုများကို ထောက်ခံရန်အတွက် စက်မှုလုပ်ငန်းတည်ထောင်မှုတွင် ပြည်ပပို့ကုန်များ၏ အဓိကကျသော အခန်းကဏ္ဍကို မကြာခဏ အသုံးပြုကြပါသည်။ သို့ရာတွင် စက်မှုလုပ်ငန်းဆိုင်ရာမူဝါဒ၏ ထိရောက်မှုနှင့် နိုင်ငံပိုင်လုပ်ငန်းများ၏ ပျံ့နှံ့မှုသည် အစိုးရ၏ အရေးကြီးသော အခန်းကဏ္ဍကို မီးမောင်းထိုးပြနေပါသည်။

တရုတ်နိုင်ငံတွင် ကမ္ဘာ့အခြားသော အစိတ်အပိုင်းများနှင့် မတူဘဲ ပြုပြင်ပြောင်းလဲရေးများကို ဖြည်းဖြည်းချင်းနှင့် စနစ်တကျဆောင်ရွက်ခဲ့ပါသည်။ ဤသို့လုပ်ဆောင်ခြင်းကိုပြောင်းလဲပစ်ရန် အကြောင်းရှိပုံမပေါ်ပါ။

**အာဂျင်တီးနားနိုင်ငံဟာ ဘာကြောင့်အခုထက်ပိုပြီး မအောင်မြင်တာလဲ**

လွန်ခဲ့သည့်ရာစုနှစ်အတွင်းက အာဂျင်တီးနားနိုင်ငံ၏ အတွေ့အကြုံကို 'ဖွံ့ဖြိုးမှုမဖြစ်မြောက်ခဲ့သော' ဖြစ်ရပ်တစ်ခုအဖြစ် အချို့က ရည်ညွှန်းကိုးကားကြပါသည်။ အဘယ့်ကြောင့်နည်း။ နှစ်ဆယ်ရာစုနှစ်အတွင်းသို့ဝင်ခဲ့သောအချိန်က အာဂျင်တီးနားနိုင်ငံသည် အမေရိကန်၊ ဗြိတိန်၊ ကနေဒါနှင့် ဂျာမနီနိုင်ငံတို့၏နောက်တွင်ရှိသော အချမ်းသာဆုံးနိုင်ငံတစ်နိုင်ငံ ဖြစ်ခဲ့ပါသည်။

ဤနိုင်ငံသည် ကမ္ဘာတစ်ဝှမ်းလုံးသို့ အဓိကအားဖြင့် ဗြိတိန်နိုင်ငံသို့ ဂျုံနှင့် အမဲသားတင်ပို့ရောင်းချခဲ့သဖြင့် ၎င်း၏စီးပွားရေးသည် တိုးတက်ဖွံ့ဖြိုးခဲ့ပါသည်။ ၁၉၃၀ ပြည့်လွန်နှစ်များ၏ နောက်ပိုင်းတွင် ၎င်း၏စီးပွားရေးသည် အကျဘက်သို့ရောက်သွားပြီး ဖုတ်လိုက် ဖုတ်လိုက် ဖြစ်လာခဲ့ပါသည်။ ဗြိတိန်နိုင်ငံ၏ ဝယ်လိုအားများအဆုံးသတ်သွားပြီး ပြည်ပသို့ပို့ခဲ့ရသော ကုန်ပစ္စည်းကို ပြည်တွင်း၌သာ စားသုံးပစ်ခဲ့ရပါသည်။ နှစ်ဆယ်ရာစုအလယ်ပိုင်းတွင် စက်မှုကုန်ထုတ်လုပ်မှုကို တိုးချဲ့ရန် ကြိုးပမ်းမှုများကို ပြုလုပ်ခဲ့သော်လည်း မတည်ငြိမ်မှုနှင့် ပြည်ပကန့်သတ်ချုပ်ချယ်မှုများကြောင့် မအောင်မမြင်ဖြစ်ခဲ့ပါသည်။ ပြည်တွင်းစက်မှုလုပ်ငန်းအတွက် ပေးရမည့်နေရာကို နိုင်ငံပေါင်းစုံမှ ကော်ပိုရေးရှင်းကြီးများက ကန့်သတ်ထားသည့်အချိန်တွင် စစ်အာဏာသိမ်းမှုများဆက်တိုက်ဖြစ်ပွားခဲ့ခြင်းက ရှေ့နောက်ညီညွတ်သော စီးပွားရေးမူဝါဒကို အဟန့်အတား ဖြစ်ခဲ့ပါသည်။ ရာစုနှစ်အကုန်တွင် ဖြေလျှော့ပေးမှုများသည် ကုန်သွယ်ရေးနှင့်ဘဏ္ဍာရေးလိုငွေများကို ဖြစ်ပေါ်စေခဲ့ပြီး ၂၀၀၂ ခုနှစ်တွင် ငွေရာမအကျပ်အတည်းကြီးတစ်ခုကို ပေါ်ထွက်လာစေခဲ့ပါသည်။

(၉)

## ပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေး စီးပွားရေးပညာ

ဖွံ့ဖြိုးတိုးတက်မှုကို ကျွန်ုပ်တို့လိုအပ်ပါသလား။ သမားရိုးကျ အသိပညာအားလုံးကို ဆန့်ကျင်နေသော ပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေး စီးပွားရေးပညာက 'မလိုအပ်ပါ' ဟု ဆိုပါသည်။ ကျွန်ုပ်တို့ လိုအပ်သည်မှာ 'အောင်မြင်မှု' ဟူသည့် စကားရပ်အပေါ် ကျွန်ုပ်တို့၏ အဓိပ္ပာယ်ဖွင့်ဆိုချက်ကို ပြောင်းလဲပစ်လိုက်ရုံသာ ဖြစ်ပါသည်။ ဤတွေးခေါ်ပုံနည်းလမ်းအရ ထွက်လာသည့်အဖြေမှာ 'ရှေ့လောမကြီးဘဲ ဖြည်းဖြည်းမှန်မှန် လုပ်ရန်' ဖြစ်ပါသည်။

**'အသုံးတန်ဖိုး' ဆိုတာဘာလဲ**

ကျမ်းရိုးဘောဂဗေဒပညာတွင် အသုံးတန်ဖိုး (Use value) သည် ကုန်ပစ္စည်းတစ်ခုအတွက် ဝယ်ယူသူကပေးရန်အလိုရှိသော၊ သို့မဟုတ် ရောင်းချသူက လက်ခံရန်အလိုရှိသောငွေပမာဏပင် ဖြစ်သည်။

ပင်လယ်ကဲ့သို့သော သဘာဝအရင်းအမြစ်တစ်ခု၏ အသုံးတန်ဖိုးသည် အစားအသောက်အဖြစ် ငါး၏ငါးများ၏တန်ဖိုး၊ လက်ဝတ်ရတနာအဖြစ် ၎င်း၏ကနုကမာများ၏တန်ဖိုး၊ ခရီးသွားလုပ်ငန်းအဖြစ် ၎င်းကဆောင်ရွက်နိုင်သောစွမ်းပကား၏တန်ဖိုးများ ဖြစ်ပါသည်။ ကမ္ဘာ့

ဂေဟစနစ်ကို ထိန်းသိမ်းကာကွယ်ပေးခြင်းဖြင့်လည်းကောင်း၊ သက်ရှိမျိုးစိတ်ပေါင်းစုံတို့ မှီတင်းနေထိုင်ရာ နေရာတစ်ခုအဖြစ်ဖြင့်လည်းကောင်း ပင်လယ်တွင် သွယ်ဝိုက်သည့်အသုံးတန်ဖိုး ရှိပါသည်။ အသုံးတန်ဖိုးထက်ပို၍အရေးကြီးသော အခြားအကြောင်းရင်းများလည်း ရှိနေသေးသည်ဟု ပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးစီးပွားရေးပညာရှင်တို့က ယုံကြည်ကြပါသည်။ ၎င်းတို့ကို 'မသုံးသောတန်ဖိုးများ' ဟူ၍ သိထားပါသည်။

ကျွန်ုပ်တို့၏ မျက်စိဖြင့်မမြင်ရသည့်တိုင် ရှားပါးသော သက်ရှိမျိုးစိတ်များအတွက် မှီတင်းနေထိုင်ရာ နေရာတစ်ခုအဖြစ် ၎င်းဖြစ်တည်နေသည်ကို သိထားခြင်းဖြင့် ကျွန်ုပ်တို့ စိတ်ကျေနပ်မှုရရှိခြင်းကြောင့် ပင်လယ်တွင် 'ဖြစ်တည်မှုတန်ဖိုး' ရှိပါသည်။

ကျွန်ုပ်တို့အတွက် တိုက်ရိုက်အကျိုးမပြုသည့်တိုင် ကျွန်ုပ်တို့က ပေးအပ်ခဲ့ရန် လိုလိုလားလားရှိနေသော အနာဂတ်မျိုးဆက်များအတွက် ပင်လယ်တည်ရှိနေမည်ဖြစ်သည့်အတွက် ပင်လယ်တွင် 'အမွေအနှစ်တန်ဖိုး' ရှိပါသည်။ သဘာဝပတ်ဝန်းကျင်တစ်ခုကို တန်ဖိုးသတ်မှတ်ခြင်းသည် ၎င်း၏ အသုံးတန်ဖိုးထက်ကျော်လွန်၍ ကျွန်ုပ်တို့ဆုံးရှုံးမည့်တန်ဖိုးကို ပို၍နားလည်အောင် ကျွန်ုပ်တို့ကို လုပ်ပေးပါသည်။

**'သဘာဝအရင်းအနှီး' ဆိုတာဘာလဲ**

သမားရိုးကျ 'ကုန်ထုတ်အရင်းအနှီး' များသည် မြေ၊ အရင်းအနှီးနှင့် လုပ်အားများဖြစ်ပြီး မြေ၏ပမာဏသည်ပုံသေဖြစ်၍ အရင်းအနှီးအားလုံးသည် လူလုပ်ပစ္စည်း ဖြစ်ပါသည်။ ပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးစီးပွားရေးပညာရှင်များက မြေ၏အသက်ရှိသော အခြေခံသဘောသည် ပုံသေမဟုတ်သကဲ့သို့ အရင်းအနှီး၏ အခြေခံသဘောသည်လည်း လူလုပ်ပစ္စည်းမဟုတ်ကြောင်း အသိအမှတ်ပြုရန် သဘာဝအရင်းအနှီးကို ထပ်မံဖြည့်စွက်ခဲ့ပါသည်။

သဘာဝအရင်းအနှီးသည် နေရာတစ်နေရာတွင်တည်ရှိနေသော သစ်တောများ၊ ငါးများ၊ တွင်းထွက်သတ္တု စသည့်ပစ္စည်းများဖြစ်ပြီး

စီးပွားရေးထဲသို့ သဘာဝကိုမထိခိုက်သော ကုန်ပစ္စည်းစီးဝင်မှုတစ်ခုကို ပေးနေပါသည်။

၎င်းတို့သည် အောက်ဆီဂျင်ကိုဖန်တီးခြင်း၊ ရေကိုသန့်စင်ပေးခြင်း၊ စွန့်ပစ်ပစ္စည်းများကို ပြန်လည်အသုံးပြုနိုင်အောင်ပြုပြင်ခြင်းနှင့် မြေဆီလွှာတိုက်စားခြင်းကို ကာကွယ်ခြင်းများဖြင့် လုပ်ငန်းလည်ပတ်ရန် စီးပွားရေးအတွက် နေရာတစ်နေရာကိုလည်းပေးပါသည်။

သဘာဝအရင်းအနှီးသည် စီးပွားရေးတွင် အဓိကနေရာမှပါဝင်၍ GDP နှင့် ချမ်းသာသုခကြား 'လိုအပ်နေသောဆက်သွယ်မှု' ကိုပေးနေသည်ဟု အချို့သော စီးပွားရေးပညာရှင်များက ပြောကြပါသည်။ ၎င်း သဘာဝအရင်းအနှီးကို ကုန်ထုတ်အရင်းအနှီးတစ်ခုအဖြစ် ကျွန်ုပ်တို့က ထည့်သွင်းခြင်းမပြုလျှင် စီးပွားရေး၏ အမှန်တကယ် အလုပ်လုပ်သော တိကျသည့်နည်းလမ်းပုံစံတစ်ခု ကျွန်ုပ်တို့ထံတွင် မည်သည့်အခါမျှရှိလိမ့်မည်မဟုတ်ဟု ၎င်းတို့က အခိုင်အမာပြောကြပါသည်။

## 'Throughput' ဆိုတာဘာလဲ

Throughput (ဖြတ်သန်းပြီးစီးပမာဏ) ဆိုသည်မှာ ကုန်ကြမ်းပစ္စည်းများထဲမှ သဘာဝအရင်းအမြစ်များကို ကုန်ထုတ်လုပ်မှုလုပ်ငန်းစဉ်ဖြင့် သဘာဝထဲသို့စွန့်ပစ်ပစ္စည်းအဖြစ် ပြန်ရောက်သွားစေသော သုံးစွဲမှု ဖြစ်ပါသည်။ ကျွန်ုပ်တို့၏သုံးစွဲမှု ပို၍များပြားလေ Throughput ၊ တိကျသော အရင်းအမြစ်များသုံးစွဲမှုနှင့် စွန့်ပစ်ပစ္စည်းများ ပို၍များလေ ဖြစ်ပါသည်။

ဤဝေါဟာရကို စီးပွားရေးပညာရှင် Herman Daly က တီထွင် ခဲ့ပြီး ၁၉၉၀ ပြည့်လွန်နှစ်များတွင် ကမ္ဘာ့ဘဏ်က Herman Daly ကို သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်ရန် တာဝန်ပေးအပ်ခဲ့ပါသည်။ စီးပွားရေးတိုးတက်မှုအတွက် (ညစ်ညမ်းမှု၊ အရင်းအမြစ်ကုန်ခန်းမှုစသည့်) အခွင့်အလမ်းကုန်ကျစရိတ်များသည် ၎င်းက ရရှိမည့် အကျိုးအမြတ်များကို ကျော်လွန်သွားပြီး 'အပျက်သဘော

ဆောင်သောတိုးတက်မှု' ကို ဖြစ်ပေါ်စေသည်ဟုသည်ဟု ၎င်းကဆိုပါသည်။ ၎င်း၏ ဖြေရှင်းချက်မှာ ပင်ရင်းနေရာမှ အရင်းအမြစ်များ ထုတ်ယူမှုကို 'Severance Tax' (ဖြတ်တောက်ခွန်) ဟုခေါ်သော အခွန်ကောက်ခံခြင်းဖြင့် Throughput ကို ဟန့်တားရန်ဖြစ်ပါသည်။

ကျွန်ုပ်တို့သည် (အလုပ်အကိုင်၊ ဝင်ငွေစသည့်) ကျွန်ုပ်တို့ လိုချင်သောအရာများအပေါ်တွင် အခွန်လျှော့၍ကောက်ခံသင့်ပြီး (ညစ်ညမ်းမှု၊ ကုန်ခန်းမှုစသည့်) ကျွန်ုပ်တို့ မလိုချင်သောအရာများအပေါ်တွင် အခွန်ပို၍ကောက်ခံသင့်သည်ဟု ၎င်းကဆိုပါသည်။ ကျွန်ုပ်တို့သည် Throughput ၏ အရေအတွက်ထက် အရည်အသွေးအပေါ်တွင် ပို၍ လည်းကောင်း၊ တိုးတက်မှုထက်ဖွံ့ဖြိုးမှုအပေါ်တွင် ပို၍လည်းကောင်း အာရုံစိုက်သင့်ပါသည်။

**'မိမိကိုယ်မိမိအားကိုးခြင်း' ဆိုတာဘာလဲ**

မိမိကိုယ်မိမိအားကိုးခြင်းသည် ကမ္ဘာ့ဈေးကွက်များကို ရောင်းချခြင်းထက် ပြည်တွင်းဝယ်လိုအားရှိသည့် ကုန်ပစ္စည်းများနှင့် ဝန်ဆောင်မှုများကို ထုတ်လုပ်ခြင်းနှင့် ပတ်သက်ပါသည်။ ၎င်းသည် ပြည်နယ်၊ သို့မဟုတ် ဒေသတစ်ခုအနေဖြင့် ကမ္ဘာ့ကုမ္ပဏီများထံမှအကူအညီ၊ သို့မဟုတ် အလုပ်အကိုင်အပေါ်တွင် မမှီခိုရရန်အတွက် လုံလောက်သည့် ဝင်ငွေကိုထုတ်ပေးခြင်းနှင့် ပတ်သက်ပါသည်။

ဤပုံစံသည် 'အိမ်တွင်းစက်မှုလက်မှုလုပ်ငန်းများ' ၏ အမျိုးသားကွန်ရက်တစ်ခုဖြစ်ပြီး အဓိကအားဖြင့် စိုက်ပျိုးရေး၊ အိုးအိမ်နှင့် ပြည်တွင်းအခြေခံအဆောက်အအုံလုပ်ငန်းများကို လုပ်ကိုင်ပါသည်။ အသေးစားအရင်းအနှီးသည် ပညာရေးနှင့် စီးပွားရေးလုပ်ငန်းသစ်များ အတွက် ဘဏ္ဍာငွေထောက်ပံ့ခြင်းဖြင့် လူအများကို ၎င်းတို့၏ ဝင်ငွေရရှိနိုင်စွမ်းတိုးတက်စေရန် ကူညီပါသည်။

အိန္ဒိယနိုင်ငံသည် ဗြိတိန်နိုင်ငံအပေါ်တွင် မှီခိုအားထားလွန်းသောကြောင့် မဟတ္တမဂန္ဒီက မိမိကိုယ်မိမိအားကိုးခြင်းကို မြှင့်တင်ပေး



ခဲ့ပါသည်။ ၎င်းသည် ပြည်တွင်းစက်မှုလုပ်ငန်းများကို ထောက်ခံအား ပေးရန်အတွက် ပြည်တွင်းဖြစ်အထည်များကိုသာ ဝတ်ဆင်ခဲ့ပါသည်။ မိမိကိုယ်မိမိအားကိုးခြင်းသည် ရိုးစင်းသောနေထိုင်မှုကိုလက်ခံ၍ စားသုံး မှုကိုလျှော့ချပြီး ဘဝနေထိုင်မှုအပေါ်တွင်သာမကဘဲ ဘဝ၏ စိတ်ပိုင်းဆိုင်ရာအဆင့်အတန်းအပေါ်တွင်လည်း ပို၍အလေးထား ပါသည်။

**'သင့်လျော်သောအတိုင်းအတာ' ဆိုတာဘာလဲ**

သင့်လျော်သောအတိုင်းအတာ (Appropriate Scale) ဆို သည်မှာ *Small is Beautiful* စာအုပ်ကို ရေးသားခဲ့သူ ဂျာမန်နွယ်ဖွား ဗြိတိသျှအတွေးအခေါ်ပညာရှင် Fritz Schumacher ဖန်တီးခဲ့သော ယူဆချက်တစ်ခု ဖြစ်ပါသည်။ အလွန်ကြီးမားသော အခြေအနေတစ်ခု ဆီသို့ ဦးတည်သော အရင်းရှင်ဝါဒ၏ အလားအလာသည် ဂေဟစနစ်နှင့် မကိုက်ညီရုံသာမက လူ့ဂုဏ်သိက္ခာကိုညှိုးနွမ်းစေပြီး လူအများကိုစက် များ၏ ကျေးကျွန်များအဖြစ်သို့ပြောင်းလဲပေးနေသည်ဟု ၎င်းက ပြောခဲ့ ပါသည်။

စီးပွားရေးတိုးတက်မှုကို လုံလောက်မှုရရှိသည့်နေရာတစ်ခုတွင် ကန့်သတ်သင့်ပြီး ပြန်လည်ပြည့်ဖြိုးမြဲ အရင်းအမြစ်များအပေါ်တွင်သာ အခြေခံသင့်သည်ဟု ၎င်းက အကြံပေးခဲ့ပါသည်။ Schumacher သည် ဖြစ်နိုင်သည့်နေရာတိုင်းတွင် တတ်နိုင်သောနည်းပညာနှင့် ပြည်တွင်းတွင် ရရှိနိုင်သော အရင်းအမြစ်များကိုအသုံးပြုပြီး ဗဟိုမှလုပ်ပိုင်ခွင့် ခွဲဝေပေး ထားသောထုတ်လုပ်မှုကို ထောက်ခံခဲ့ပါသည်။

၎င်း၏ စိတ်ကူးများ အစပြုခဲ့သည့်နေရာမှာ ဗုဒ္ဓ၏အတွေး အခေါ်များဖြစ်ပြီး ၎င်း၏နည်းလမ်းကိုလည်း ဗုဒ္ဓ၏စီးပွားရေးပညာဟု သိထားကြပါသည်။ ၁၉၇၀ ပြည့်လွန်နှစ်များတွင် ကျေးလက်ဖွံ့ဖြိုး ရေးနှင့်ပတ်သက်၍ အိန္ဒိယဝန်ကြီးချုပ်နေရူးကို Schumacher က အကြံ ပေးခဲ့ပြီး ဤသင့်တော်သော နည်းပညာအယူအဆကို ရရှိခဲ့ပါသည်။

**'Entropy' ဆိုတာဘာလဲ**

Entropy သည် စွမ်းအင်အားလုံးသည် မြင့်သောပမာဏမှ နိမ့်သောပမာဏဆီသို့၊ စနစ်ကျမှုဆီမှ စနစ်မကျမှုဆီသို့သွားသည် ဟူသော သာမိုဒိုင်းနမစ်ဒုတိယဥပဒေသမှ လာခဲ့ပါသည်။ သာမိုဒိုင်းနမစ် ပထမဥပဒေသအရ စွမ်းအင်ကိုဖျောက်ဖျက်၍ မရသော်လည်း ၎င်းကို အသွင်ပြောင်းလဲနိုင်ပြီး အသုံးပြုခွင့် ပိုပြီးနည်းအောင် လုပ်၍ရပါသည်။ နေရောင်ခြည်ကို သစ်ပင်များအဖြစ်သို့ ပြောင်းလဲပြီး ၎င်းကတစ်ဖန် မီးသွေးသို့လည်းကောင်း၊ ထိုမှတစ်ဖန် ပြာအဖြစ်သို့လည်းကောင်း ပြောင်းလဲသွားပါသည်။ စွမ်းအင်ကိုအသုံးပြုခွင့် ပို၍နည်းလေ ၎င်း၏ Entropy ပို၍မြင့်မားလေ ဖြစ်ပါသည်။

စီးပွားရေးလုပ်ငန်းသည် စွမ်းအင်ကို နိမ့်သော Entropy (ကျောက်မီးသွေး၊ ရေနံ) မှ မြင့်သော Entropy (ကုန်ပစ္စည်း၊ စွန့်ပစ်ပစ္စည်း) သို့ပြောင်းလဲပေးသော လုပ်ငန်းစဉ်တစ်ခု ဖြစ်ပါသည်။ ထို့အပြင် ၎င်းသည် နဂိုအတိုင်း ပြန်မဖြစ်နိုင်သော (ပြောင်းပြန်ပြန်၍ မပြောင်းလဲနိုင်သော) လုပ်ငန်းစဉ် ဖြစ်ပါသည်။ ဤအခြေခံ ရူပဗေဒသဘောတရားကို ၁၈၂၄ ခုနှစ်တွင် တွေ့ရှိခဲ့ပြီး ၎င်းကို ၁၉၆၀ ပြည့်လွန်နှစ်များတွင် ရိုမေးနီးယားစီးပွားရေးပညာရှင် Nicholas Georgescu-Roegen က စီးပွားရေးပညာတွင် အသုံးပြုခဲ့ပါသည်။ ပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေး စီးပွားရေးပညာသည် ဤဂြိုလ်ကမ္ဘာ၏ Entropy မြင့်မားသော သဘာဝ အရင်းအမြစ်များပမာဏကို ထိန်းသိမ်းရန်အတွက် ဤဖြစ်စဉ်ကိုနှေးကွေး အောင်လုပ်ခြင်းနှင့် ပတ်သက်ပါသည်။

**'GDP အစား အခြားရွေးချယ်စရာတိုင်းတာမှုတွေ' ဟာ ဘာတွေလဲ**

GDP (ပြည်တွင်းအသားတင်ထုတ်လုပ်မှု) သည် ပတ်ဝန်းကျင် နှင့် ဆန့်ကျင်ဘက် ဖြစ်နေပါသည်။ ဖယ်ရှားမှုကိုပြုလုပ်သောညစ်ညမ်း မှုသည် GDP ကိုတိုးစေသော်လည်း သဘာဝပတ်ဝန်းကျင်ကို ထိန်းသိမ်း စောင့်ရှောက်ခြင်းကို ကုန်ကျစရိတ်တစ်ခုအဖြစ် ယူဆကြပါသည်။

အခြားသော ညွှန်းကိန်းများသည် သဘာဝအရင်းအမြစ်များ၏တန်ဖိုး၊ ဝင်ငွေဖြန့်ဝေမှုနှင့် ဘဝအဆင့်အတန်းကဲ့သို့သော အကြောင်းတရားများကို ထည့်သွင်းခြင်းဖြင့် ဤကိစ္စကိုကိုင်တွယ်ဖြေရှင်းပေးပါသည်။

Genuine Progress Indicator - GPI (စစ်မှန်သောတိုးတက်မှုအညွှန်း) သည် စီးပွားရေးတိုးတက်မှု၏ စစ်မှန်၍ သဘာဝကို မထိခိုက်သောအကျိုးကျေးဇူးကို တိုင်းတာရန်အတွက် စီးပွားရေးတိုးတက်မှုထဲမှ သဘာဝပတ်ဝန်းကျင်နှင့် လူမှုရေးကုန်ကျစရိတ်များကိုနုတ်ပါသည်။ GPI တွင် အရင်းအမြစ်ကုန်ခန်းခြင်း၊ ပြစ်မှု၊ လူမှုရေးပျက်စီးမှု၊ ညစ်ညမ်းမှုနှင့် ဂေဟစနစ်ဆုံးရှုံးမှုကဲ့သို့သော အကြောင်းတရားများပါဝင်ပါသည်။

ဥရောပနှင့် အမေရိကန်နိုင်ငံတို့တွင် GPI ကို အသုံးပြုခဲ့ရာ GDP ပုံမှန်တက်ခဲ့သော်လည်း GPI သည် ၁၉၇၅ ခုနှစ်တွင် အထွတ်အထိပ်သို့ ရောက်ခဲ့ပြီးနောက်ပိုင်း၌မှစ၍ ကျဆင်းခဲ့ပါသည်။ လူသားဖွံ့ဖြိုးမှုအညွှန်းကိန်း (Human Development Index) သည် လူ့ပျမ်းမျှသက်တမ်း၊ ပညာရေးနှင့် လူနေမှုအဆင့်အတန်းများကို တိုင်းတာသော်လည်း ၎င်းတွင် သဘာဝပတ်ဝန်းကျင်ဆိုင်ရာ အခြေခံအကြောင်းရင်းများမပါဝင်ပါ။ အခြားသောညွှန်းကိန်းများမှာ သဘာဝကိုမထိခိုက်သောစီးပွားရေးနှင့် လူမှုဖူလုံရေးညွှန်းကိန်း (Index of Sustainable Economic Welfare)၊ အကြမ်းဖျင်းအမျိုးသားပျော်ရွှင်မှု (Gross National Happiness)၊ အမျိုးသားကျန်းမာပျော်ရွှင်မှုဖြစ်စဉ် (National Well-being Accounts) နှင့် ပျော်ရွှင်သောဂြိုလ်ကမ္ဘာအညွှန်း (Happy Planet Index) များ ဖြစ်ကြပါသည်။

## 'တည်ငြိမ်သောနိုင်ငံတော်စီးပွားရေး' ဆိုတာဘာလဲ

တည်ငြိမ်သောနိုင်ငံတော်စီးပွားရေးဆိုသည်မှာ GDP တက်ခြင်း ကျခြင်းမရှိသော၊ လူဦးရေမပြောင်းလဲသော၊ သဘာဝအရင်းအမြစ်များကို ရေရှည်ထိန်းသိမ်းနိုင်အောင် အသုံးပြုသောစီးပွားရေး ဖြစ်ပါသည်။ ၎င်းသည် ပုံသေတိုးတက်မှုကိုလက်ခံသော ကျမ်းရိုးဘောဂဗေဒနှင့်

မတူဘဲ တိုးတက်မှုနှင့် သဘာဝအရင်းအမြစ်များသည် အကန့်သတ်ရှိသည်ဟု ခံယူထားပါသည်။ ၎င်း၏ အဓိကအခြေခံသဘောတရားများမှာ ဂေဟစနစ်ကိုထိန်းသိမ်း၍ (ငါးနှင့် သစ်ပင်များကဲ့သို့) ပြန်လည်အစားထိုးနိုင်သောအရာများကို ၎င်းတို့ကို ပြန်လည်ဖြည့်တင်းနိုင်သည်ထက် ပို၍မြန်အောင် စားသုံးခြင်းမပြုရန် ဖြစ်ပါသည်။

(ကျောက်မီးသွေးနှင့် ရေနံကဲ့သို့) ပြန်လည်အစားမထိုးနိုင်သောအရာများကို အရင်းအမြစ်အသစ်များကို တွေ့ရှိသည်ထက် ပို၍မြန်အောင် သုံးစွဲခြင်းမပြုရန် ဖြစ်ပါသည်။ စွန့်ပစ်ပစ္စည်းများကို ၎င်းတို့ကို ဓာတ်သဘာဝပြိုကွဲအောင် လုပ်နိုင်သည်ထက် ပို၍မြန်အောင် စွန့်ပစ်ခြင်းမပြုရန် ဖြစ်ပါသည်။ 'တည်ငြိမ်သောနိုင်ငံ' ဟူသော အယူအဆကို ၁၉ ရာစုနှစ်တွင် J.S. Mill က ပထမဆုံးအဆိုပြုခဲ့ပြီး ၁၉၇၀ ပြည့်လွန်နှစ်များတွင် Herman Daly က ပြန်လည်ဖော်ထုတ်ခဲ့ပါသည်။

## 'ဂေဟစနစ်ကိုအလေးထားသော စီးပွားရေးပညာ' ဆိုတာ ဘာလဲ

ဂေဟစနစ်ကိုအလေးထားသော စီးပွားရေးပညာ (Ecological Economics) ဆိုသည်မှာ စီးပွားရေးသည် ဤဂြိုလ်ကမ္ဘာဂေဟစနစ်၏ အစိတ်အပိုင်းတစ်ခုဖြစ်သည်ဟု အခိုင်အမာဆိုသော တွေးခေါ်ပုံနည်းလမ်းတစ်ခု ဖြစ်ပါသည်။ သို့ရာတွင် ဤဂြိုလ်ကမ္ဘာဂေဟစနစ်သည် စီးပွားရေး၏ အစိတ်အပိုင်းတစ်ခုဖြစ်သည်ဟု အပြန်အလှန်ဆိုမထားပါ။ ဂေဟစနစ်ကိုအလေးထားသော စီးပွားရေးပညာသည် သဘာဝပတ်ဝန်းကျင်ကို ငွေကြေးတန်ဖိုး အမှန်တကယ်မရှိသော၊ ထာဝရပြန်လည်ဖြည့်ဆည်းပေးနိုင်သည့် ကုန်ပစ္စည်းတစ်ခုအဖြစ်မြင်သော ကျမ်းရိုးဘောဂဗေဒ၏အမြင်ကို ဆန့်ကျင်ရန်ကြိုးစားပါသည်။ သဘာဝပတ်ဝန်းကျင်သည် ကုန်ကြမ်းပစ္စည်းမှ ရာသီဥတုထိန်းသိမ်းမှုအထိ အရာအားလုံးကို ဖြည့်ဆည်းပေးနေရသဖြင့် ၎င်းကို 'ကုန်ထုတ်လုပ်မှု၏ အကြောင်းတရား' အဖြစ် မှတ်ယူရမည် ဖြစ်ပါသည်။

အချို့သော ဂေဟစနစ်ကိုအလေးထားသော စီးပွားရေးပညာ

ရှင်များက ဤသဘာဝအင်အားစုများကို အဆင့်အတန်းတစ်ခုပေးရန် အတွက် တန်ဖိုးသတ်မှတ်ပေးလိုကြပါသည်။ အချို့ကမူ ယင်းသို့ သတ်မှတ်ခြင်းသည် သဘာဝတရားကြီးကို ကုန်ပစ္စည်းတစ်ခုဖြစ်အောင် ပြောင်းလဲလိုက်ခြင်းဖြစ်သည်ဟု ယူဆကြပါသည်။

ဂေဟာစနစ်ကိုအလေးထားသော စီးပွားရေးပညာရှင်များက လူ့အဖွဲ့အစည်းကို (ကုန်ကြမ်းပစ္စည်းများကို ဖြည့်ဆည်းပေးနေသော) အရင်းအမြစ်လုပ်ငန်းနှင့် (စွန့်ပစ်ပစ္စည်းများကို စွန့်ပစ်နေသော) မြှုပ်နှံမှုလုပ်ငန်းများပါဝင်သော ဇီဝဖြစ်စဉ်တစ်ခုအဖြစ် မြင်ပါသည်။ ဂေဟာစနစ်ကိုအလေးထားသော စီးပွားရေးပညာ၏ ရည်ရွယ်ချက်မှာ ထိုဖြစ်စဉ်အတွင်း၌ သဘာဝဟန်ချက်ညီမှုကို အနှောင့်အယှက်မဖြစ်စေဘဲ ပျော်ရွှင်မှုအများဆုံးကိုရရှိစေမည့် လူသားများ၏နေရာကို ရှာဖွေတွေ့ရှိရန်ဖြစ်ပါသည်။ ဂေဟာစနစ်ကိုအလေးထားသော စီးပွားရေးပညာသည် သဘာဝပတ်ဝန်းကျင်ဆိုင်ရာ စီးပွားရေးပညာနှင့် ခြားနားပါသည်။ ၎င်းသည် နိုင်ငံရေးလှုပ်ရှားမှုတစ်ခုထက် အတွေးအမြင်ဆိုင်ရာ လှုပ်ရှားမှုတစ်ခု ပို၍ဖြစ်ပါသည်။

THAR NGE

ဤစာအုပ်တွင် ...

စီးပွားရေးအဆောက်အအုံကြီး၏ လည်ပတ်နေပုံ၊
စီးပွားရေး နှင့်ပတ်သက်၍ အဓိကလူများ၏ လုပ်ဆောင်ပုံ၊
စီးပွားရေးဆိုင်ရာဝေါဟာရများ၊
စီးပွားရေးပညာရှင်ကြီးများနှင့် ၎င်းတို့၏ တွေးခေါ်ယူဆချက်၊
ကမ္ဘာတွင် ငွေကြေးကို ပုံစံအမျိုးမျိုးဖြင့် တီထွင်သတ်မှတ်ရောင်းဝယ်ကြပုံများ၊
စီးပွားရေးကောင်းခြင်းနှင့် စီးပွားရေးကျဆင်းခြင်းများ၊
စီးပွားရေးအရ တစ်ကမ္ဘာလုံး နီးကပ်ဆက်နွယ်သွားပုံ၊
ယခုအခါ ခေတ်စားလာသော ပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးစီးပွားရေး စသည့်
အကြောင်းများကို နားလည်လွယ်သည့် စကားလုံးများဖြင့်
သိရှင်းတိရှင်း ဖော်ပြထားပါသည်။


ISBN 978-99971-0-465-6
9 789997 104656 >

cover design: lu maw han, 2018.